ကန့်သတ်

**Supreme Services Team Hotel Company Limited မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရှူးကျွန်းရှိ မြေဧရိယာ (၁၅) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းနှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Supreme Services Team Hotel Company Limited |
| | ရင်းနှီးမြှုပ်နှံသူ/ ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဒေါ်မာမာခင် (မန်နေဂျင်းဒါရိုက်တာ) |
| | လုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရှူးကျွန်းရှိ မြေဧရိယာ (၁၅) ဧက |
| ၃။ | မြေပိုင်ရှင် | - တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်မှုကာလ | - ၃၆ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း: | **- ကျပ် ၃၁၀၉.၂၃၃ သန်း (US$ ၀.၈၃၇ သန်း အပါအဝင် )** |
| | ငွေသား | ကျပ် ၁၅၀.၀၀၀ သန်း |
| | စက်ပစ္စည်းကိရိယာတန်ဖိုး | ကျပ် ၁၁၀၅.၃၉၄ သန်း (US$ ၀.၈၃၇ သန်းနှင့်ညီမျှသော) |
| | အဆောက်အဦတည်ဆောက်စရိတ် | ကျပ် ၁၄၄၂.၄၉၀ သန်း |
| | ပရိဘောဂနှင့်ပစ္စည်းများ | ကျပ် ၃၅၀.၀၂၉သန်း |
| | အခြား | ကျပ် ၆၁.၃၂၀ သန်း |
| | **စုစုပေါင်း:** | **ကျပ် ၃၁၀၉.၂၃၃ သန်း** |
| +၆ ။ | ဝန်ဆောင်မှုနှုန်းထားများ | |

| **အခန်းအမျိုးအစား** | **အရေအတွက်** | **ဝန်ဆောင်ခ တစ်နေ့ / တစ်ခန်းလျှင် (US$)** |
|---|---|---|
| - Bungalow (Mountain View Cottage) | ၁၅ | ၆၀ |
| - Bungalow (Garden View Cottage) | ၁၅ | ၈၀ |
| - Bungalow (Sea View Cottage) | ၁၅ | ၁၂၀ |
| **စုစုပေါင်း:** | ၄၅ | Occupancy Rate-၂၀% |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းခန့်ထားမှု (ပထမနှစ်)<br>ပြည်တွင်း<br><br>ပြည်ပ | **- ၅၆ ဦး**<br>၅၆ဦး (ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာတစ်လလျှင် ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။)<br>- မရှိပါ |
| ၈။ | CSR | - ၂ % |
| ၉။ | ငွေကြေးအထောက်အထား | - ကျပ်ငွေအထောက်အထားအဖြစ် Supreme Services Team Hotel Co.,Ltd. ၏ မန်နေဂျင်းဒါရိုက်တာဖြစ်သည့် ဒေါ်မာမာခင် နှင့် ဦးမျိုးအောင်သာအမည်တို့ဖြင့် CB Bank တွင် (၈-၁-၂၀၁၈) ရက်စွဲဖြင့် လက်ကျန်ငွေ ကျပ် ၁၆၁,၇၃၈,၀၀၀.၀၀ နှင့် Supreme Services Team Hotel Co., Ltd. အမည်ဖြင့် CB Bank တွင် (၂၉-၁၂-၂၀၁၇)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၃၂,၃၈၀,၉၂၁ ရှိကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားငွေအထောက်အထားအဖြစ် Supreme Services Team Hotel Co., Ltd. အမည်ဖြင့် CB Bank တွင် (၂၉-၁၂-၂၀၁၇) ရက်စွဲဖြင့် လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၄၇,၇၆၈.၉ ရှိကြောင်းတင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက်များ | - Supreme Services Team Hotel Co., Ltd. နှင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့တို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ B.O.T စာချုပ်(မူကြမ်း)တို့အား တင်ပြထားပါသည်။<br>- (၇-၈-၂၀၁၄) ရက်နေ့တွင် မှတ်ပုံတင်အမှတ်-၁၀၅၂/၂၀၁၉ မှတ်ပုံတင်ထားသည့် Supreme Services Team Hotel Co.,Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်အား တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆောင်ရွက်မည့် အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး ဆောင်ရွက်မည့် အစီအစဉ်၊ အလုပ်သမားသက်သာချောင်ချိရေး အစီအစဉ် နှင့် CSR အသုံးပြုမည့် အစီအစဉ်တို့အား တင်ပြထားပါသည်။ |
| ၁၁။ | မြေငှားစာချုပ်(မူကြမ်း)နှင့် B.O.Tစာချုပ်(မူကြမ်း) သဘောတူ စာချုပ်ပါ အဓိက အချက်များ | - တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့ နှင့် Supreme Services Team Hotel Co.,Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)နှင့် B.O.T စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-<br>(က) ငှားရမ်းကာလမှာ သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍နှစ်(၅၀)ဖြစ်ပါသည်။<br>**မြေငှားစာချုပ်(မူကြမ်း)အပိုဒ်-၄**<br>(ခ) မြေအသုံးချမှုအာမခံကြေးမှာ တစ်ဧကလျှင် ကျပ် ၁၀၀၀၀၀ နှုန်းဖြင့် မြေဧရိယာ ၁၅ ဧက အတွက် ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါ သည်။ **မြေငှားစာချုပ်(မူကြမ်း) အပိုဒ် ၇-၁** |

| | | |
|---|---|---|
| | | (ဂ) နှစ်စဉ် ငှားရမ်းခမှာ ဟိုတယ်လုပ်ငန်းမှ ခန့်မှန်းဝင်ငွေ USD ၅၄၈၀၄၇.၅ ၏ ၅% = USD ၂၇၄၀၂.၃၇၅ ဖြစ်ပါသည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၇-၂**<br>(ဃ)နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် ၂ ကြိမ် အရစ်ကျ ပေးချေရမည်။ ပထမအရစ်ကို ဟိုတယ်တရားဝင် ဖွင့်လှစ်သည့် နေ့မှ စ၍ပေးချေရမည်။ ပထမအရစ်ပေးချေသည့် ငွေမှာ USD ၁၅,၀၀၀ ဖြစ်ပြီး၊ ဒုတိယအရစ် ပေးချေရမည့်ငွေမှာ USD ၁၂၄၀၂.၃၇၅ (သို့) ဝင်ငွေအခြေခံတွက်ချက်မှု၏ ၅% သည် ပိုများပါက ပထမအရစ် တန်ဖိုးငွေကို ထုတ်နှုတ်၍ ကျန်ငွေပမာဏကို ပေးသွင်းရမည်။**မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၇-၃**<br>(င) သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ၃၆ လ အတွင်း အပန်းဖြေစခန်း တည်ဆောက်ရေး လုပ်ငန်းများကို သတ်မှတ်နယ်မြေတွင် အပြီးဆောက်လုပ်ရမည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၈-၁**<br>(စ) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းနှင့်သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့် သက်တမ်းကာလ ကုန်ဆုံးသည့်အခါ (သို့) စာချုပ်ရပ်စဲသည့်အခါ အဆိုပါနေ့ရက်မှစ၍ ရက်ပေါင်း (၃၀)အတွင်း ငှားရမ်းသည့်မြေကို မူလအငှားချထားသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်ပေါ်စေဘဲ အပ်နှံရမည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၁၆-၁**<br>(ဆ)အငှားချထားခြင်း ခံရသူသည် စာချုပ် သက်တမ်း နှင့် သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့် သက်တမ်းကာလကုန်ဆုံးသည့်အခါ (သို့) စာချုပ်ရပ်စဲသည့်အခါ အဆိုပါနေ့ရက်မှ စ၍ ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်းနှင့် ဆက်စပ်သည့် မရွှေ့မ ပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သော ပစ္စည်းများ အပါအဝင် ပစ္စည်းများ အားလုံးကို အဖိုးစားနာမပါဘဲ အငှားချထားသူထံသို့ လွှဲပြောင်းပေးရမည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၁၆-၂** |
| ၁၂။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - လျှပ်စစ်ဓါတ်အားလိုင်းမှ ရယူအသုံးပြုနိုင်ခြင်း မရှိ၍ ကိုယ်ပိုင်မီးစက် (Generator-150 KVA) ဖြင့် အသုံးပြု ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၄/မ-၁၂၆/၂၀၁၈ (၂၁၂ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၁၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Supreme Services Team Hotel Company Limited မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေရှူးကျွန်းရှိ မြေဧရိယာ (၁၅) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ Supreme Services Team Hotel Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေရှူးကျွန်းရှိ မြေဧရိယာ (၁၅) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မာမာခင်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် Supreme Services Team Hotel Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ B.O.T သဘောတူစာချုပ် (မူကြမ်း) တို့နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် Supreme Services Team Hotel Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ B.O.T သဘောတူစာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းကာလမှာ သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှစ်(၅၀) ဖြစ်ပါသည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ်-၄**

(ခ) မြေအသုံးချမှုအာမခံကြေးမှာတစ်ဧကလျှင် ကျပ် ၁၀၀၀၀၀ နှုန်းဖြင့် မြေဧရိယာ ၁၅ ဧကအတွက် ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။ **မြေငှားစာချုပ်(မူကြမ်း) အပိုဒ် ၇-၁**

(ဂ) နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် ၂ ကြိမ်အရစ်ကျ ပေးချေရမည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၇-၃**

(ဃ) နှစ်စဉ်ငှားရမ်းခမှာ ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ ၅၄၈၀၄၇.၅ ၏ ၅% = USD ၂၇၄၀၂.၃၇၅ ဖြစ်ပါသည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၈-၂**

(င) သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ၃၆ လ အတွင်း အပန်းဖြေစခန်း တည်ဆောက်ရေး လုပ်ငန်းများကို သတ်မှတ်နယ်မြေတွင် အပြီးဆောက်လုပ်ရမည်။ **မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၈-၁**

(စ) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့် သက်တမ်းကာလ ကုန်ဆုံးသည့်အခါ (သို့) စာချုပ်ရပ်စဲသည့်အခါ

အဆိုပါ နေ့ရက်မှစ၍ရက်ပေါင်း (၃၀)အတွင်း ငှားရမ်းသည့်မြေကို မူလအငှားချထားသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်ပေါ်စေဘဲအပ်နှံရမည်။

**မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၁၆-၁**

(ဆ) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့် သက်တမ်းကာလ ကုန်ဆုံးသည့်အခါ (သို့) စာချုပ်ရပ်စဲသည့်အခါ အဆိုပါနေ့ရက်မှစ၍ ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းနှင့်ဆက်စပ်သည့် မရွှေ့မပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများ အပါအဝင်ပစ္စည်းများအားလုံးကို အဖိုးစားနာမပါဘဲ အငှားချထားသူထံသို့ လွှဲပြောင်းပေးရမည်။

**မြေငှားစာချုပ်(မူကြမ်း)အပိုဒ် ၁၆-၂**

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး (၅၀) နှစ်နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃၆) လဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၁၀၉.၂၃၃ သန်း (US$ ၀.၈၃ သန်းအပါအဝင်) ဖြစ်ပြီး၊ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ကျပ်သန်း**

| | | |
|---|---|---|
| ငွေသား | ၁၅၀.၀၀၀ | |
| စက်ပစ္စည်းကိရိယာတန်ဖိုး | ၁၁၀၅.၃၉၄ | (US$၀.၈၃၇သန်းနှင့်ညီမျှသော) |
| အဆောက်အဦတည်ဆောက်စရိတ်တန်ဖိုး | ၁၄၄၂.၄၉၀ | |
| ပရိဘောဂနှင့်ပစ္စည်းများတန်ဖိုး | ၃၅၀.၀၂၉ | |
| အခြား | ၆၁.၃၂၀ | |
| **စုစုပေါင်း** | **၃၁၀၉.၂၃၃** | **(US$ ၀.၈၃၇ သန်းအပါအဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၅၆) ဦး ခန့်ထားမည်ဖြစ်ပြီး၊ တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် ဟိုတယ်ခန်းများ၏ ဝန်ဆောင်မှုနှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အခန်းအမျိုးအစား** | **အရေအတွက်** | **ဝန်ဆောင်ခ တစ်နေ့ / တစ်ခန်းလျှင် (US$)** |
|---|---|---|
| - Bungalow (Mountain View Cottage) | ၁၅ | ၆၀ |
| - Bungalow (Garden View Cottage) | ၁၅ | ၈၀ |
| - Bungalow (Sea View Cottage) | ၁၅ | ၁၂၀ |
| **စုစုပေါင်း** | **၄၅** | **Occupancy Rate-၂၀%** |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ရေးဆွဲဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်းပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

၉။ ကျပ်ငွေအထောက်အထားအဖြစ် Supreme Services Team Hotel Co.,Ltd. ၏ မန်နေးဂျင်းဒါရိုက်တာဖြစ်သည့် ဒေါ်မာမာခင်နှင့် ဦးမျိုးအောင်သာအမည်တို့ဖြင့် CB Bank တွင် (၈-၁-၂၀၁၈) ရက်စွဲဖြင့် လက်ကျန်ငွေ ကျပ် ၁၆၁,၇၃၈,၀၀၀.၀၀ နှင့် Supreme Services Team Hotel Co., Ltd. အမည်ဖြင့် CB Bank တွင် (၂၉-၁၂-၂၀၁၇)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၃၂,၃၈၀,၉၂၁ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေအထောက်အထားအဖြစ် Supreme Services Team Hotel Co., Ltd. အမည်ဖြင့် CB Bank တွင် (၂၉-၁၂-၂၀၁၇) ရက်စွဲဖြင့် လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၄၇,၇၆၈.၉ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေဌာနခွဲမှ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ဟိုတယ်လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားလိုင်းမှ ရယူအသုံးပြုနိုင်ခြင်းမရှိ၍ ကိုယ်ပိုင်မီးစက်(Generator-150 KVA)ဖြင့် အသုံးပြုဆောင်ရွက်သွား မည်ဖြစ်ကြောင်းနှင့် အဆိုပြုလုပ်ငန်းအတွက် မီးဘေးကြိုတင်ကာ ကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များအားတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Supreme Services Team Hotel Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရူးကျွန်းရှိ မြေဧရိယာ (၁၅) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ဖော်ပြချက်တွဲ - ၁



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၅/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Supreme Services Team Hotel Company Limited မှ B.O.T စနစ်ဖြင့်နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၀၂၆/ ၂၀၁၈(၀၉၅)

၁။ Supreme Services Team Hotel Company Limited မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငွေထွေးရှုးကျွန်းရှိမြေဧရိယာ ၁၅ ဧက (၆၀,၇၀၂.၈၄ စတုရန်းမီတာ) ပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co., Ltd. တို့အကြား ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်နှင့် လွှဲပြောင်းခြင်းဆိုင်ရာ B.O.T သဘောတူစာချုပ် (မူကြမ်း) ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းကို မြေ (၆၀,၇၀၂.၈၄ စတုရန်းမီတာ) တွင် (၃) နှစ်အတွင်းဆိပ်ခံတံတားနှင့် မြေယာပြုပြင်ခြင်း၊ ဆည်တည်ဆောက်ခြင်း၊ Sea View Cottage၊ Garden View Bungalow၊ Mountain View နှင့် ဝန်ထမ်းအိမ်ယာအပါအဝင် အဆောက်အဦ (၅၁)လုံးခန့် တည်ဆောက်ကာတည်းခိုနေထိုင်ခြင်း၊ ကျွန်းပတ်ဝန်းကျင်၌ရေကူးခြင်း၊ ရေငုပ်ခြင်း၊ သဘာဝရှုခင်းများနှင့် သန္တာကျောက်တန်းများ လေ့လာခြင်း၊ ရေအောက်သန္တာကျောက်တန်းများ ကြည့်ရှုလေ့လာခြင်းစသည့် ဝန်ဆောင်မှုပေးသည့် လုပ်ငန်းများဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အနံ့အသက်များနှင့် စွန့်ပစ်ရေများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုအပ်သောအစီအမံများနှင့် စွန့်ပစ်ရေပြန်လည်သန့်စင်သည့် ရေသန့်စင်ကန်များ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Supreme Services Team Hotel Company Limited မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေ သား အမှုန်အမွှားများနှင့် ဖုန်မှုန့် များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့်စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) ကျွန်းပတ်ဝန်းကျင်၌ရေကူးခြင်း၊ ရေငုပ်ခြင်း၊ သဘာဝရှုခင်းများနှင့် သန္တာကျောက်တန်းများလေ့လာခြင်း၊ ရေအောက်သန္တာ ကျောက်တန်းများ ကြည့်ရှုလေ့လာခြင်းစသည့် ဝန်ဆောင်မှုပေးသည့် လုပ်ငန်းများဆောင်ရွက်ရာတွင် စနစ်တကျ စီမံဆောင်ရွက်မှုမရှိခြင်းကြောင့် ရေသယံဇာတနှင့် ဂေဟဗေဒစနစ်များ ထိခိုက်ပျက်စီးစေနိုင်ခြင်း၊

(ဃ) ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ ပင်လယ်အတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါကရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘား၊ မီးဖိုဆောင်မှထွက်ရှိလာမည့် အစား အသောက်အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ်တကျမစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Supreme Services Team Hotel Company Limited မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ

ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တနင်္သာရီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
မြို့နယ်စုပေါင်းရုံး၊ ကံ့ကော်လမ်း၊ ဆန်းချီရပ်၊
ထားဝယ်မြို့။

တယ်လီဖုန်း - ၀၅၉ - ၂၂၂၃၀
ဖက်(စ်) - ၀၅၉ - ၂၂၂၃၃

စာအမှတ် ၊ တနသ-ရက/ရင်းနှီး(မ-၄)/၂၀၁၈(၀၀၅)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ ဇန်နဝါရီလ ၃ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အဆိုပြုလျှောက်ထားလွှာ လွှဲပြောင်းပေးအပ်ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Supreme Services Team Hotel Company Limited မှ တင်ပြသည့် အဆိုပြုလျှောက်ထားလွှာ

၁။ Supreme Services Team Hotel Company Limited မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရူးကျွန်းရှိ မြေဧရိယာ(၃၀)ဧကအနက် မြေဧရိယာ(၁၅)ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့်အပန်းဖြေစခန်းအား BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မာမာခင်၊ (၁၂/အစန(နိုင်)၁၂၂၂၁၆) သည် မတည်ရင်းနှီးငွေ ကျပ် ၄,၄၆၄.၇၈၇ သန်း( အမေရိကန်ဒေါ်လာ(၀.၅၆၇) သန်းအပါ အဝင်) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တနင်္သာရီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလျှောက်ထားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Supreme Services Team Hotel Company Limited မှ ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၈)၊ပုဒ်မ ၃၆(ဃ) အရ " **နိုင်ငံတော်ပိုင်မြေနှင့် အဆောက်အဦများ အသုံးပြုသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ**" သည် ကော်မရှင်သို့အဆိုပြုချက်တင်ပြစေပြီး ခွင့်ပြုမိန့်ရရှိမှသာ ရင်းနှီးမြှုပ်နှံရမည် ဖြစ်ပါသောကြောင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်နှင့်အတူ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာ၊ (BOT) သဘောတူစာချုပ်(မူကြမ်း) နှင့် မြေငှားခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)တို့အား လွှဲပြောင်းပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ဒေါက်တာထွန်းထွန်း ၊ အတွင်းရေးမှူး)

မိတ္တူကို

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**
**ထားဝယ်မြို့**

စာအမှတ်၊ ၁၀၃၁၃ /၅၀၀(၂)/၁-၆/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

သို့

ဥက္ကဋ္ဌ
တနင်္သာရီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ထားဝယ်မြို့

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Hotel Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များ တင်ပြလာသည့်ကိစ္စ**

ရည် ညွှန်း ချက်။ Supreme Services Hotel Co., Ltd ၏ (၁၄.၈.၂၀၁၇)ရက်စွဲပါ စာအမှတ်၊ S.S.T / NTR / ၂၇၆ (၁၀၀-၄)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငွေးရှုးကျွန်းရှိ မြေဧရိယာ(၃၀၀)ဧကပေါ်တွင် Supreme Services Hotel Co., Ltd မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားရာတွင် အသုံးပြုမြေဧရိယာ(၇၀)ဧက၊ အကာအကွယ်တော မြေဧရိယာ(၂၃၀)ဧက၊ စုစုပေါင်းမြေဧရိယာ(၃၀၀)ဧက လျှောက်ထားတင်ပြထားရှိသော်လည်း အသုံးပြုမြေအဖြစ် လျှောက်ထားသော မြေဧရိယာ(၇၀)ဧကအစား ကမ်းခြေနှင့်ဆက်စပ်သည့် မြေဧရိယာ(၃၀)ဧကအနက် မြေဧရိယာ(၁၅)ဧကပေါ်တွင်သာ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့်စပ်လျဉ်း၍ (၁၀.၄.၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၇)ဆုံးဖြတ်ချက်အပိုဒ်(၂၇)အရ **"ကန့်ကွက်ရန်မရှိပါကြောင်း"**ဆုံးဖြတ်ထားပြီးဖြစ်ပါသည်။

၂။ အဆိုပါ Supreme Services Hotel Co., Ltd မှ ငွေးရှုးကျွန်းပေါ်တွင် အသုံးပြုမြေအဖြစ် လျှောက်ထားသော မြေဧရိယာ(၇၀)ဧကအစား ကမ်းခြေနှင့်ဆက်စပ်သည့် မြေဧရိယာ(၃၀)ဧကအနက် မြေဧရိယာ(၁၅)ဧကပေါ်တွင်သာ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရေးအတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Hotel Co., Ltd တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်

(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များအား ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုနှင့်စပ်လျဉ်း၍ (၁၃.၉.၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ်(၁၄/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ် (၈၇)အရ **“ အတည်ပြုကြောင်းနှင့် တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မရှင်တွင် မှတ်ပုံတင်ပြုလုပ်ဆောင်ရွက်သွားရန် ”** ဆုံးဖြတ်ခဲ့ပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ငထွေးရူးကျွန်း၊ မြေဧရိယာ(၁၅)ဧကပေါ်တွင် Supreme Services Hotel Co., Ltd မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရေး ကုမ္ပဏီ၏ အဆိုပြုလွှာနှင့်အတူ မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) များအား ပူးတွဲပေးပို့ပါသည်။

**ပူးတွဲပါ** - တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)<br>
မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) } (၃)အုပ်စီ

Supreme Services Hotel Co., Ltd ၏ အဆိုပြုလွှာ (၁)အုပ်

ယခင်မြေဧရိယာ(၃၀၀)ဧကပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုလွှာ (၁)စောင်

ဝန်ကြီးချုပ်(လက်မှတ်)

(ကောင်းစံဦး၊ အတွင်းရေးမှူး)

မိတ္တူကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့

ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၊ နေပြည်တော်

အတွင်းရေးမှူး၊ တနင်္သာရီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ထားဝယ်မြို့

Supreme Services Hotel Co., Ltd

လက်ခံစာတွဲ

မျှောစာတွဲ

# SUPREME SERVICES TEAM HOTEL Co,Ltd

မှ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊

ကော့သောင်းမြို့နယ်၊ငထွေးရှုးကျွန်းတွင် နိုင်ငံတကာအဆင့်မီ

ဟိုတယ်နှင့်အပန်းဖြေစခန်း

**BOT** စနစ်ဖြင့်

ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်သို့

အဆိုပြုချက်တင်ပြချက်

# SUPREME SERVICES TEAM HOTEL Co,Ltd

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်သို့

## အဆိုပြုတင်ပြချက်

# SUPREME SERVICES TEAM HOTEL CO,Ltd

## ဟိုတယ်နှင့်ခရီးသွာလာရေးလုပ်ငန်းစီမံချက်

နိဒါန်း

၁။ SUPREME SERVICES TEAM HOTEL CO,Ltd ကုမ္ပဏီမှတ်ပုံတင်အမှတ်-၁၀၅၂/ ၂၀၀၉-၂၀၁၀ ဖြင့်(၂၂-၁၀-၂၀၀၉)ရက်နေ့တွင် စတင်ဖွဲ့စည်းခဲ့ပါသည်။ ကုမ္ပဏီသည် ရခိုင်ပြည်နယ် ငပလီမြို့တွင် Plaesant View Resort အား ၂၀၀၇ ခုနှစ်တွင်လည်းကောင်း၊ Plaesant View Hotel အား ၂၀၁၄ ခုနှစ် ရန်ကုန်မြို့ တွင်လည်းကောင်း ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်လျှက်ရှိပါသည်။ ယခုအခါ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်တွင် ခရီးသွားအခြေခံသော စီးပွားရေးလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင် ဆောင်ရွက်သွားရန် ကုမ္ပဏီဒါရိုက်တာများအစည်းအဝေးတွင် ဆုံးဖြတ်ခဲ့ပါသည်။ ထို့ကြောင့် ကော့သောင်းခရိုင် အတွင်းရှိငထွေရှုးကျွန်းအား တနင်္သာရီတိုင်းဒေသကြီး၊ မြေဧက(၁၅)ပေါ်တွင် ဘန်ဂလိုနှင့်အပန်းဖြေစခန်းများ ဆောက်လုပ်ရန်ရည်ရွယ်ပြီး ဤလုပ်ငန်းစီမံချက်ကို ရေးဆွဲတင်ပြရခြင်းဖြစ်ပါသည်။

လုပ်ငန်းရည်ရွယ်ချက်

၂။ SUPREME SERVICES TEAM HOTEL CO,Ltd သည် အောက်ပါလုပ်ငန်းရည်ရွယ်ချက်များကို အလေးထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) ဟိုတယ်လုပ်ငန်းခွဲကို ရင်းနှီးမတည်လုပ်ကိုင်ခြင်းဖြင့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတိုးတက်မြင့်မားလာစေရန်။

(ခ) ဟိုတယ်လုပ်ငန်းဖြင့် နိုင်ငံခြားသားခရီးသွား ဧည့်သည်များပိုမိုဝင်ရောက်လာပြီး နိုင်ငံတော်အတွက် အခွန်ငွေပိုမိုရရှိလာစေရန်။

(ဂ) မြန်မာ့ရေပိုင်နက်အတွင်းရှိ ကျွန်း၊ ရေ ၊ မြေ သဘာဝသယံဇာတအလှအပများကို ထိန်းသိမ်းစောင့်ရှောက်သွားရန်နှင့် ဒေသအတွက်အကျိုးရှိရှိအသုံးချသွားနိုင်ရန်။

(ဃ) ကော့သောင်းဒေသအတွင်း လုပ်သားများ အလုပ်အကိုင်အခွင့်အလမ်းများရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ကျစေရန်။

(င) နိုင်ငံခြားသားခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်လာခြင်းဖြင့် ဒေသအတွင်းလက်မှုအရောင်းဆိုင်များ ကမ်းခြေအပန်းဖြေလုပ်ငန်းများ၊ စားသောက်ဆိုင်လုပ်ငန်းများ ဝင်ငွေတိုးတက်ရရှိစေပြီး နိုင်ငံခြားဝင်းငွေရရှိစေရန်။

လုပ်ငန်းဆောင်ရွက်ရန် အစည်းဝေးညှိနှိုင်းခြင်း

၃။ SUPREME SERVICES TEAM HOTEL CO,Ltd သည် ဘန်ဂလိုနှင့်အပန်းဖြေစခန်းလုပ်ငန်းကို ဆောင်ရွက်ရန် အောက်ပါအတိုင်း အစည်းအဝေးညှိနှိုင်းဆုံးဖြတ်ပါသည်-

(က) SUPREME SERVICES TEAM HOTEL CO,Ltd အနေဖြင့် ဘန်ဂလိုနှင့်အပန်းဖြေ

စခန်းများဆောက်လုပ်ပြီး ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းခွဲကို ထပ်မံရင်းနှီးမြှုပ်နှံရန်။

(ခ) ကုမ္ပဏီလုပ်ငန်းကို အောက်ပါဒါရိုက်တာအဖွဲ့ဝင်(၃)ဦးနှင့်မန်နေဂျာ(၂)ဦးအား တာဝန်ခွဲဝေ ပေးအပ်၍ ဆောင်ရွက်စေရန်-

(၁) ဒေါ်မာမာခင် Manging Director

(၂) ဦးငြိမ်းချမ်း Director

(၃) ဦးမောင်မောင်ညွန့် Director

(ဂ) SUPREME SERVICES TEAM HOTEL CO,Ltd ဘဏ်စာရင်းရှင် (Currennt A/C) စာရင်းဖွင့်လှစ်ရာတွင် အောက်ပါဒါရိုက်တာအဖွဲ့ဝင်(၃)ဦးအနက်(၂)ဦး လက်မှတ်ဖြင့် ငွေသွင်း/ငွေထုတ်ပြုလုပ်သွားရန်။

(ဃ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းအတွက် ရင်းနှီးမတည်ငွေကို SUPREME SERVICES TEAM HOTEL CO,Ltd ၏ပင်မငွေစာရင်းမှ ထုတ်ယူသုံးစွဲသွားရန်။

မတည်ရင်းနှီးငွေရရှိမှု

၄။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် ရင်းနှီးမတည်ငွေကို အောက်ပါအတိုင်းထုတ်ယူသုံးစွဲသွားမည်ဖြစ်ပါသည်။

(က) SUPREME SERVICES TEAM HOTEL CO,Ltd ၏ပင်မငွေစာရင်းမှ ထုတ်ယူသုံးစွဲခြင်း၊ လုပ်ငန်းတည်ဆောက်ရန်အတွက် လိုအပ်သောငွေကြေးအရင်းအနှီးကို ဆောက်လုပ်မည့်နှစ်အလိုက် SUPREME SERVICES TEAM HOTEL CO,Ltd ပင်မလှည့်ပတ်ရင်းနှီးငွေမှ ထုတ်ယူပြီး ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ တည်ဆောက်လုပ်ငန်းကာလအလိုက်ထုတ်ယူသုံးစွဲမှုတန်းဖိုးများမှာ-

(၁) တည်ဆောက်မည့်ကာလ ပထမနှစ်တွင် - သန်း (၁၆၀၉.၂၃)

(၂) တည်ဆောက်မည့်ကာလ ဒုတိယနှစ်တွင် - သန်း (၇၅၀)

(၃) တည်ဆောက်မည့်ကာလ တတိယနှစ်တွင် - သန်း (၇၅၀)

အပန်းဖြေစခန်းဆောက်လုပ်ရေးလုပ်ငန်း အကောင်အထည်ဖော်ရေးစီမံချက်ရေးဆွဲခြင်း

၅။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်း ငထွေရှုးကျွန်း၏ မြေဧက(၁၅)ပေါ်တွင် ဘန်ဂလိုပုံစံဟိုတယ်အပန်းဖြေစခန်းများ တည်ဆောက်ရန်အတွက် ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင်မှအောက်ပါနှစ်အလိုက် အပိုင်းအခြားခွဲခြားပြီး အကောင်အထည်ဖော်ဆောင်ရွက်သွားရန် စီမံချက်ရေးဆွဲဆောင်ရွက်ထားပါသည်-

(က) ပထမနှစ်တည်ဆောက်ရန်

- ကျွန်း၏ကမ်းခြေနေရာပြင်ဆင်ခြင်း။
- ဆိပ်ခံတံတားနေရာနှင့်ဆိပ်ကမ်းမြေယာပြင်ဆင်ခြင်း။
- Sea view Cottage (၁၀)လုံး၊ Gerden view Bungalow (၅)လုံး၊ Jetty (၁)ခု၊

Dam (၁)ခု၊ ဝန်ထမ်းအိမ်ရာ(၂)လုံး ဆောင်လုပ်ခြင်း။

(ခ) ဒုတိယနှစ်တည်ဆောက်ရန်

- အဆောက်အဦးများဆောင်လုပ်ရန် မြေညှိခြင်း။
- Gerden view (၁၀)လုံး ဆောက်လုပ်ခြင်း။
- Sea view Cottage (၅)လုံး

(ဂ) တတိယနှစ်တည်ဆောက်ရန်

- အဆောက်အဦးများ ဆောက်လုပ်ရန် မြေညှိခြင်း။
- Mountain view (၁၅)လုံးဆောက်လုပ်ခြင်း။

ဆောက်လုပ်ကုန်ကျတန်ဖိုးတွက်ချက်ခန့်မှန်းခြင်း

၆။ ငထွေရှုးကျွန်းတွင် ဟိုတယ်ပုံစံဘန်ဂလိုအပန်းဖြေစခန်းများ တည်ဆောက်မှုအတွက် အဆောက်အဦး ဆောက်လုပ်ရေးကျွမ်းကျင်ပညာရှင်များ၊ အင်ဂျင်နီယာများ၏ ခန့်မှန်းတွက်ချက်မှုအရ ကဏ္ဍအလိုက်ကုန်ကျမည့် တန်းဘိုးများမှာ-

| | | | |
|---|---|---|---|
| (က) | ဘန်ဂလိုအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာ ဆောက်လုပ်ခြင်း(မြေယာပြင်ဆင်စရိတ်အပါအဝင်) | - | သန်း (၁၄၄၂.၄၉) |
| (ခ) | အသုံးပြုမည့်ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ အဝယ်တန်ဘိုး | - | သန်း (၃၅၀.၀၃) |
| (ဂ) | အသုံးပြုမည့်ဟိုတယ်လုပ်ငန်းသုံးစက်ပစ္စည်းများ အဝယ်တန်ဘိုး | - | သန်း (၁၁၀၅.၃၉) |
| (ဃ) | အခြားလုပ်ငန်းသုံးငွေသားလက်ကျန် | - | သန်း (၁၅၀) |

လုပ်ငန်းသုံးပစ္စည်းများ ပြင်ပမှဝယ်ယူတင်သွင်းခြင်း

၇။ ငထွေရှုးကျွန်း ဘန်ဂလိုဆောက်လုပ်ရေးပစ္စည်းနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအဆင့်အတန်းမြင့်စံချိန် မှီပစ္စည်းများ အသုံးပြုရန်အတွက်ပြည်တွင်းမှဝယ်ယူသွားမည်ဖြစ်ပါသည်။ ပြည်ပမှတင်သွင်းရာတွင် သွင်းကုန်စနစ်ဖြင့်မှာယူတင်သွင်းသွားမည် ဖြစ်ပါသည်။ တင်သွင်းလာသောပစ္စည်းများစံချိန်မှီခြင်းရှိ/မရှိ အပြစ်အနာအဆာ ရှိ/မရှိတို့ကို ကုမ္ပဏီ၏ဒါရိုက်တာအဖွဲ့ဝင်(၂)ဦးနှင့်ပညာရှင်(၁)ဦး ပါဝင်သောအဖွဲ့မှစစ်ဆေး လက်ခံသွားမည်ဖြစ်ပါသည်။

ဝင်ငွေရရှိနိုင်မှုနှင့်အရင်းကြေကာလခန့်မှန်းတွက်ချက်ခြင်း

၈။ ငထွေရှုးကျွန်းတွင် ဘန်ဂလိုနှင့်အပန်းဖြေစခန်းများ တည်ဆောက်ပြီးစီးပါက ပြည်တွင်း၊ပြည်ပ ခရီးသွား ဧည့်သည်များ တည်းခိုနားနေအပန်းဖြေနိုင်ပြီး ဝင်ငွေအဖြစ် ပျမ်းမျှတစ်နှစ်လျှင် ကျပ်သန်း (၂၀၇) ရရှိနိုင်မည်ဖြစ်ပါ သည်။ နှစ်အလိုက်ရရှိမည့် ဝင်ငွေအသေးစိတ်ခန့်မှန်းတွက်ချက်မှုများအရ ယင်းဟိုတယ်လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အရင်းကြေကာလမှာ(၁၅)နှစ်ရှိကြောင်းနှင့်အသေးစိတ်ခန့်မှန်းချက်ဇယားအား နောက်ဆက်တွဲဇယားများဖြင့်

ပူးတွဲတင်ပြထားပါသည်။ နောက်ဆက်တွဲ (၇)

ပြည်တွင်း/ပြည်ပခရီးသွားလုပ်ငန်းများနှင့်ချိတ်ဆက်ထားရှိသည့်အခြေအနေ

၉။ SUPREME SERVICES TEAM HOTEL CO,Ltd သည် ငထွေးရှူးကျွန်း အပန်းဖြေစခန်း လုပ်ငန်းအတွက် ပြည်တွင်းခရီးသွားလုပ်ငန်းများနှင့်ချိတ်ဆက်ပြီး ရန်ကုန်မြို့မှ လေယာဉ်ခရီးစဉ်များဖြင့် အဓိက သယ်ယူပြီး ကျွန်းအရောက်ပို့ဆောင်ပေးသွားမည်ဖြစ်ပါသည်။ ထို့အပြင် ထိုင်းနိုင်ငံနှင့်စင်္ကာပူနိုင်ငံများရှိ ခရီးသွား လုပ်ငန်းများ၊ ကုမ္ပဏီများနှင့်ချိတ်ဆက်၍ ကော့သောင်းဒေသနှင့်ကျွန်းများသို့ အပန်းဖြေအနားယူနိုင်ရန်နှင့် ရေအောက်သဘာဝရှုခင်းများ လေ့လာနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ၎င်းအပြင် အခြားပြင်ပနိုင်ငံ များရှိ ခရီးသွားကုမ္ပဏီများ၊ အပျော်စီးရွက်လှေကုမ္ပဏီများနှင့်လည်း ဆက်သွယ်ဆောင်ရွက်နိုင်ရန် စီစဉ်ဆောင်ရွက် ထားပြီးဖြစ်ပါသည်။

ခရီးသွားဧည့်သည်များအား အပန်းဖြေလုပ်ငန်းအပြင် အခြားဝန်ဆောင်မှုပေးခြင်း

၁၀။ ငထွေးရှူးကျွန်းဘန်ဂလိုနှင့် အပန်းဖြေစခန်းသို့လာရောက်သည့် နိုင်ငံခြားသားဧည့်သည်များအား အပန်းဖြေ နားနေမှုအပြင် အောက်ပါဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ပေးရန် စီစဉ်ထားပြီးဖြစ်ပါသည်-

(က) ကော့သောင်းမြို့ရှိ အထင်ကရရှိသော ဘုရားများ၊ ဘုရင့်နောင်တောတန်း၊ ဘုရင့်နောင်အငူသို့ ဧည့်ကြိုကားဖြင့် ပို့ဆောင်ပေးခြင်း။

(ခ) မလိဝမ်းရေပူစမ်း၊ မလိဝမ်းရေတံခွန်အပန်းဖြေစခန်းများနှင့် ကျေးရွာများသို့ လှည့်လည်ပြသ ပေးခြင်း။

(ဂ) မြောက်ဖြူကျွန်း၊ မြောက်နီကျွန်း၊ ခရင်းခွကျွန်းနှင့်အခြားကျွန်းများသို့ ကုမ္ပဏီပိုင်အမြန်သင်္ဘောဖြင့် လှည့်လည်ပို့ဆောင်ပေးခြင်း။-

(ဃ) ငထွေးရှူးကျွန်းရှိဘန်ဂလိုများတွင် ညအိပ်တည်းခိုစားသောက်ပြီး ကျွန်းပတ်ဝန်းကျင်၌ ရေကူးခြင်း ရေငုပ်ခြင်း၊ သဘာဝရှုခင်းများနှင့်သန္တာကျောက်တန်းများ လေ့လာခြင်း ရေအောက်သတ္တဝါများကို ကြည့်ရှုခြင်း။

အန္တရာယ် ကာကွယ်ရေးဆောင်ရွက်မှု

၁၁။ ငထွေးရှူးကျွန်းအပန်းဖြေစခန်းတွင် ခရီးသွားဧည့်သည်များ အန္တရာယ်ကင်းရှင်းစွာတည်ခိုနားနေနိုင်ရန် အတွက် ဘန်ဂလိုများတွင် မီးဘေးကြိုတင်သတိပေးစနစ်များတပ်ဆင်ထားခြင်း၊ ကမ်းခြေတွင်ကယ်ဆယ်ရေး ဝန်ထမ်းခန့်ထား၍ စောင့်ကြည့်စေခြင်း၊ ဧည့်သည်များ မတော်တဆထိခိုက်ဖျားနာပါက ကုသပေးနိုင်ရန်အတွက် သူနာပြုနှင့်ဆေးဝါးကျွမ်းကျင်သူများအား၊ ဝန်ထမ်းခန့်ထားဆောင်ရွက်ပေးခြင်း၊ အရေးပေါ်ဆေးဝါးပစ္စည်းများ အလုံအလောက်ထားရှိခြင်း စသည့်အန္တရာယ်ကာကွယ်မှုစနစ်များကို ထားရှိဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အကျိုးအမြတ်ရရှိနိုင်မှုအခြေအနေ

၁၂။ ငထွေးရှူးကျွန်းဟိုတယ်သည် မြန်မာ့ရေပိုင်နက်အတွင်းရှိ မြိတ်ကျွန်းစု သဘာဝရှုခင်းအလှအပများနှင့်

ရေအောက်ရှုခင်းအလှအပများကို နိုင်ငံခြားသားခရီးသွားဧည့်သည်များ အနားယူခံစားနိုင်စေခြင်းဖြင့် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိနိုင်ရန်လုပ်ကိုင် ဆောင်ရွက်ခြင်းဖြစ်ပါသည်။ ထို့ကြောင့် အကျိုးအမြတ်ရရှိနိုင်မှုအနေအထားကို တွက်ချက်ခန့်မှန်းကြည့်ရာတွင် အောက်ပါအကျိုးအမြတ်များရရှိနိုင်မည်ဖြစ်ပါသည်။

(က) ကုမ္ပဏီအကျိုးအမြတ်ရရှိနိုင်မှုအခြေအနေ။ ကုမ္ပဏီအတွက် အရင်းကြေကာလအပြီး ဝင်ငွေအဖြစ် ပျမ်းမျှတစ်နှစ်လျှင် မြန်မာကျပ်ငွေ ကျပ်သန်း (၂၃၈) အားလည်းကောင်း နှစ်စဉ်ရရှိနိုင်မည် ဖြစ်ပါသည်။

(ခ) ဒေသအတွက် အကျိုးဖြစ်ထွန်းမည့်အခြေအနေ။ ငထွေရှုးကျွန်းဘန်ဂလိုနှင့် အပန်းဖြေစခန်းလုပ်ငန်းတည်ဆောက်လုပ်ကိုင်ခြင်းဖြင့် ကော့သောင်းမြို့နယ်အတွင်းရှိ ဘွဲ့ရပညာတတ်လူငယ်များ အခြေခံလုပ်သားများကို အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်ယုံမျှမက ဒေသခံလုပ်သားပြည်သူများ၏ဒေသထွက်ကုန် လက်မှုပစ္စည်း၊ ရိုးရာအစားအသောက်များရောင်းဝယ်ဖောက်ကားနိုင်မည်ဖြစ်သည့်အပြင် အိမ်နီးချင်း ထိုင်းနိုင်ငံမှ ဧည့်သည်များလည်း အလည်အပတ်လာရောက်ခြင်းဖြင့် နှစ်နိုင်ငံ ချစ်ကြည်ရင်းနှီးမှု တိုးပွားလာမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိမှုနှင့် အခွန်အခများ ရရှိနိုင်မှုအခြေအနေ။ ငထွေရှုးကျွန်းဘန်ဂလိုနှင့်အပန်းဖြေလုပ်ငန်း စခန်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် နိုင်ငံခြားသားခရီးသွားဧည့်သည်များပိုမိုဝင်ရောက်လာနိုင်ပြီး နိုင်ငံတော်အတွက် ကုန်သွယ်ခွန်အားလည်းကောင်း၊ ဝင်ငွေခွန်အားလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။ ထို့အပြင် နိုင်ငံခြားသားများဝင်ရောက်မှုနှင့် ပတ်သက်၍ နိုင်ငံတော်မှ နိုင်ငံခြားသားများဝင်ရောက်မှု ဗီဇာခ၊ ဆိပ်ကမ်းခ၊ ပို့ဆောင်ဆက်သွယ်ရေးခနှင့် ဟိုတယ်ခရီးလိုင်စင်ကြေးများလည်း ရရှိနိုင်မည်ဖြစ်ပါသည်။

အလုပ်အကိုင်အခွင့်အလမ်းပေးနိုင်မှုအခြေအနေ

၁၃။ ငထွေရှုးကျွန်းဟိုတယ် တည်ဆောက်ပြီးစီးပါက ကော့သောင်းဒေသအတွင်းရှိ ဝန်ထမ်းဦးရေ(၆၀)ဦးကျော်အား အလုပ်အကိုင်အခွင့်အလမ်းများရရှိလာနိုင်မည်ဖြစ်ပါသည်။ ထို့အပြင် ဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်လျက်ရှိသည့် ဧည့်လမ်းညွှန်လုပ်ငန်း၊ အမှတ်တရအရောင်းဆိုင်လုပ်ငန်း၊ ဒေသထွက်စားသောက်ကုန်ပစ္စည်းများရောင်းချမှုလုပ်ငန်း၊ အငှားယာဉ်လုပ်ငန်း၊ ဒေသထွက်ကုန်ထုတ်လုပ်မှုလုပ်ငန်းများတွင်လည်း အလုပ်အကိုင်အခွင့်အလမ်းများရရှိလာနိုင်မည်ဖြစ်ပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းအစီအမံများ

၁၄။ ငထွေရှုးကျွန်းဘန်ဂလိုနှင့် အပန်းဖြေစခန်းလုပ်ငန်းသည် မြန်မာနိုင်ငံ၏ ပင်လယ်သဘာဝ၊ ရှုခင်းအလှအပများနှင့် ရေအောက်သဘာဝရှုခင်းများ၊ ရေနေသတ္တဝါ ဗီဇမျိုးစိပ်များကို ခရီးသွားဧည့်သည် နိုင်ငံခြားသားများအား ကြည့်ရှုလေ့လာရန်အတွက် အဓိကဝန်ဆောင်မှုပေးသည့် လုပ်ငန်းတစ်ခုဖြစ်ပါသည်။ ယင်းသဘာဝရှုခင်းအလှအပကြောင့်သာလျှင် နိုင်ငံခြားသားခရီးသွားဧည့်သည်များလာရောက်လည်ပတ် လေ့လာမည် ဖြစ်သဖြင့် ကျွန်းပေါ်ရှိသဘာဝကမ်းခြေအလှအပများကို မပျက်စီးစေရန်ထိန်းသိမ်းပြုပြင်ခြင်း၊ နိုင်ငံခြားသားများ ကြည့်ရှုလေ့လာရန်ခွင့်ပြုထားသော ပင်လယ်ရေအောက်သန္တာကျောက်ခက်ပြုပြင်ခြင်း၊ နိုင်ငံခြားသားများကြည့်ရှုလေ့လာရန်

ခွင့်ပြုထားသော ပင်လယ်ရေအောက်သန္တာကျောက်ခတ်များနှင့် ရေအောက်သတ္တဝါများ သေကျေမျိုးတုန်းမသွားစေရေး ထိန်းသိမ်းစောင့်ရှောက်ခြင်း အစီအမံများကို ကျွမ်းကျင်သည့် အဏ္ဏဝါဇီဝပညာရှင်များငှားရမ်းကာ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့အပြင် အပန်းဖြေလုပ်ငန်းမှထွက်ရှိသော ရေဆိုးရေညစ်များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးအတွက် ရေဆိုးရေသန့်စင်သည့် ကန်ထားရှိခြင်း၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျထိန်းသိမ်းခြင်းစသည့် အစီအမံများ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်မှုအပေါ် ကတိဝန်ခံခြင်း

၁၅။ SUPREME SERVICES TEAM HOTEL CO,Ltd ၏ငထွေရှူးကျွန်းဟိုတယ်အပန်းဖြေလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှပိုင်ဆိုင်မှု၊ ထောက်ပံ့မှု မရှိပါကြောင်းနှင့် အောက်ဖော်ပြပါ အချက်များကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်-

(က) လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုထားသည့် လုပ်ငန်းအမျိုးအစားနှင့် ဆက်နွယ်လျက်ရှိသော စီးပွားရေးလုပ်ငန်းများကိုသာ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ခ) လုပ်ပိုင်ခွင့်နှင့်အသုံးပြုခွင့်ရယူထားသော မြေပေါ်တွင် မြေပေါ်/မြေအောက်သယံဇာတပစ္စည်းများကို တူးဖော်ထုတ်ယူခြင်းမပြုပါ။

(ဂ) လုပ်ပိုင်ခွင့်နှင့်အသုံးပြုခွင့်ရယူထားသောမြေအတွက် မြေအခွန်အခများကို ကြွေးကျန်မရှိ အပြည့်အဝ ပေးဆောင်ပါမည်။

(ဃ) လုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှသတ်မှတ်ထားသော စည်းကမ်းများနှင့် မူဝါဒလမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားပါမည်။

(င) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များမဖြစ်ပေါ်စေရန်နှင့် ရေဆိုးရေညစ်များ သဘာဝပတ်ဝန်းကျင်မထိခိုက်စေရန်အတွက် လိုအပ်သောကြိုတင်ကာကွယ်မှု အစီအမံများကို ပြုလုပ်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ရေအောက်သယံဇာတပျက်စီးမှုများ မဖြစ်ပွားစေရန် အထူးအလေးထား ဂရုစိုက်ကြပ်မတ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(စ) ကုမ္ပဏီအနေဖြင့် လုပ်ငန်းမှရရှိလာသော နိုင်ငံခြားငွေများကို မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် (MICB) ကူးသန်းရောင်းဝယ်ရေးဘဏ် (MFTB) များမှတစ်ဆင့် နိုင်ငံခြားငွေစာရင်းဖွင့်လှစ်ခွင့်ရရှိထားသော ပုဂ္ဂလိကဘဏ်များထံသို့ လွှဲပို့လက်ခံရယူပြီးမှသာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ရှေ့လုပ်ငန်းစဉ်များ

၁၆။ SUPREME SERVICES TEAM HOTEL CO,Ltd ၏ငထွေရှူးကျွန်းဟိုတယ်အပန်းဖြေလုပ်ငန်းသည် ဒေသအတွင်းခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်စေရန်အတွက် ဟိုတယ်လုပ်ငန်းနှင့် ခရီးသွားလုပ်ငန်းအဖြစ်လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ထို့ကြောင့် ခရီးသွားလုပ်ငန်းနှင့်ဆက်စပ်လျက်ရှိသော လုပ်ငန်းများကို ရှေ့လုပ်ငန်းစဉ်အဖြစ် အောက်ပါအတိုင်းဆက်လက်လုပ်ကိုင်သွားရန် ရည်မှန်းချက်ချထားပါသည်-

(က) ပြည်တွင်းခရီးသွားကုမ္ပဏီများနှင့်ချိတ်ဆက်၍ အောက်ပါအတိုင်းဆောင်ရွက်သွားပါမည်-

(၃) အောက်မြန်မာပြည် ပဲခူး၊ မော်လမြိုင်၊ စက်စဲ ခရီးစဉ်အားလည်းကောင်း၊

(၄) ကော့သောင်းမြို့မှ ငထွေရှုးကျွန်းနှင့် အခြားပတ်ဝန်းကျင်ကျွန်းများတွင် အပန်းဖြေ အနားယူခြင်း၊ ရေငုပ်ခြင်း၊ သဘာဝသယံဇာတများအား လေ့လာခြင်းများ ဆောင်ရွက် ပြီး မြိတ်မြို့အထိ ခရီးစဉ်အား လည်းကောင်း၊

(၅) ကော့သောင်းမြို့ ကျွန်းများမှ တစ်ဆင့် မြိတ် - ထားဝယ်ခရီးစဉ်အားလည်းကောင်း၊

<u>**အထွေထွေ**</u>

၁၇။ SUPREME SERVICES TEAM HOTEL CO., LTD သည် နှစ်စဉ်နိုင်ငံတော်သို့ ပေးသွင်းရမည့် အခွန်အခများကိုလည်း နှစ်စဉ်မှန်မှန်ကြွေးကျန်မရှိပေးသွင်းနိုင်သော ကုမ္ပဏီတစ်ခု လည်း ဖြစ်ပါသည်။ ယခုအခါ SUPREME SERVICES TEAM HOTEL CO., LTD သည် ဟိုတယ် နှင့် ခရီးသွားလာနိုင်ရေးလုပ်ငန်းများကို လုပ်ငန်းခွဲ တစ်ခုအနေဖြင့် လုပ်ကိုင်ဆောင်ရွက်ခြင်းဖြစ် ပါသည်။ လုပ်ငန်းအတွက် ရင်းနှီးမတည်ငွေကို ပင်မကုမ္ပဏီ၏ ငွေစာရင်းမှ ထုတ်ယူပြီး လုပ်ငန်းခွဲ ရင်းနှီးမြှုပ်နှံငွေ အဖြစ် မတည်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

<u>**နိဂုံး**</u>

၁၈။ SUPREME SERVICES TEAM HOTEL CO., LTD သည် နိုင်ငံတော်၏ ရည်မှန်းချက်ဖြစ်သော ဟိုတယ်နှင့် ခရီးသွား လုပ်ငန်း တိုးတက်ဖွံ့ဖြိုးရေးကို အလေးထား ဆောင်ရွက် သည့် အနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်းရှိ ငထွေးရှုးကျွန်းတွင် ဘန်ဂလို နှင့် အပန်းဖြေစခန်း လုပ်ငန်းကို နိုင်ငံတကာအဆင့်မီ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ယင်းလုပ်ငန်းသည် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိမည့် လုပ်ငန်းဖြစ်သည့်အပြင် ဒေသတွင်း စီးပွားရေးလုပ်ငန်းများကိုပါ တစ်ဖက်တစ်လမ်းမှ အကျိုးဖြစ်ထွန်းစေမည့် လုပ်ငန်းဖြစ်ပါသည်။ ထို့ကြောင့် ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှ ချမှတ်ထားသော ဥပဒေ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံး လုပ်နည်း၊ လမ်းညွှန်ချက်များကို အလေးထားလိုက်နာပြီး လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

ရက်စွဲ။ ၁၉ . ဝ၃. ၂၀၁၈

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားခြင်း။**

၁။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ SUPREME SERVICES TEAM HOTEL CO.,LTD သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း ခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ငထွေရှူးကျွန်း ဧက(၁၅)ခန့်အား တနင်္သာရီတိုင်းဒေသကြီး အစိုးရထံမှ BOTစနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မှီ ဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်သည် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၈၃၇,၄၂၀) နှင့် မြန်မာငွေကျပ် သန်း(၂၀၀၃.၈၄)ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၃။ တည်ဆောက်ဆဲကာလတွင် လိုအပ်သော ဝန်ထမ်းများအား ပြည်တွင်းရှိ အတတ်ပညာရှင် များဖြင့် တည်ဆောက်လာမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိပါက နယ်စပ်ဒေသ ဖြစ်သည့် တနင်္သာရီတိုင်းဒေသကြီး၏ ဒေသဖွံ့ဖြိုးရေးကို များစွာအထောက်အကူဖြစ်စေမည့် အပြင် ဒေသခံပညာတတ်လူငယ်များအတွက် အလုပ်အကိုင်အသစ်များနှင့် လုပ်ငန်းအတွေ့ အကြုံရရှိစေမည်ဖြစ်ပြီး နိုင်ငံတော်အတွက်လည်း နိုင်ငံခြားငွေ ရှာပေးနိုင်မည်ဖြစ်ပါသည်။ ဒေသဆိုင်ရာတိုးတက်မှုနှင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများလည်း ရရှိလာနိုင်မည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ဒေသဖွံ့ဖြိုးရေးနှင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အလို့ငှာ လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ရရှိစေရန်အလို့ငှာလည်း ကောင်း၊

မြန်မာနိုင်ငံ၏ ဖွံ့ဖြိုးတိုးတက်ရေး တစ်ဖက်တစ်လမ်းမှ အထောက်အကူပြုနိုင်ရေးအတွက် လည်းကောင်း ကျွန်တော်တို့၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၇၄)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များ ခံစားခွင့်ရရှိရေးအတွက် အောက်ဖော်ပြပါ အထောက် အထားစာရွက်စာတမ်းများနှင့်အတူ ပူးတွဲလျှက် ရိုသေလေးစားစွာဖြင့် တင်ပြလျှောက်ထား အပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်

(ခ) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ

(ဃ) တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

(င) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ပြီးကြောင်း အထောက်အထားများ။

လေးစားစွာဖြင့်

**ဒေါ်မာမာခင်**

Managing Director

SUPREME SERVICES TEAM HOTEL Co.,Ltd

## ဝန်ထမ်းများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ SUPREME SERVICES TEAM HOTEL Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ငထွေရှူးကျွန်းမြေ (၁၅) ဧကခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မှီဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီဝန်ထမ်းများ၏ လစာငွေ (၁) နှစ်လျှင် ကျပ် (၂,၀၀၀,၀၀၀ိ/-) နှင့်အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသော နှုန်းထားများအတိုင်း ပေးဆောင်ရေးအား ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်မာမာခင်

Managing Director

SUPREME SERVICES TEAM HOTEL Co., Ltd

# ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေး အစီအမံများ

ကျွန်မတို့၏ SUPREME SERVICES TEAM HOTEL Co., Ltd ရှိ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအတွက် ရက်မှန်ကြေး၊ အချိန်ပိုကြေးနှင့် နှစ်သစ်ကူးကာလများတွင် ဝန်ထမ်းများ လှူဒါန်းသုံးစွဲနိုင်ရေး နှစ်သစ်ကူးအပိုဆုကြေးများ ထုတ်ပေးသွားမည်ဖြစ်ပါသည်။ ဘာသာရေးနှင့်ဆက်စပ်၍ နေ့ကြီးရက်ကြီးများတွင် ကုသိုလ်ကောင်းမှုပြုနိုင်ရန် အလုပ်ပိတ်ရက်ပေးခြင်းနှင့် ၎င်းအပြင် ဝန်ထမ်းများ၏ လုပ်ရည်ကိုင်ရည်ပေါ်မူတည်ပြီး လုပ်သက်ဆုကြေးများ၊ အပိုဆောင်းဆုကြေးများနှင့် အချိန်ပိုကြေးများ ပေးအပ်သွားမည်ဖြစ်ပါသည်။

ဝန်ထမ်းများကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်း ထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေးနှင့် လိုအပ်သော ဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများ၏ တစ်ကိုယ်ရေသန့်ရှင်းရေးများအတွက် ရေလုံလောက်စွာရရှိရေး စီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများအား မြို့နယ်ဖူလုံရေးအသင်းတွင် အသင်းဝင်အဖြစ် ဝင်ရောက်စေမည်ဖြစ်ပြီး နာမကျန်းပါက ရသင့်သည့်ဝန်ထမ်းအခွင့်အရေးများ ခွင့်ပေးပြီး ဆေးကုသမှုခံယူစေမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်မာမာခင်

Managing Director

SUPREME SERVICES TEAM HOTEL Co., Ltd

# CSR ရန်ပုံငွေထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

ကျွန်မတို့၏ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော SUPREME SERVICES TEAM HOTEL Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ငထွေရှုးကျွန်းမြေ (၁၅) ဧကခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မှီ ဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏ နှစ်စဉ်အမြတ်ငွေမှ (၂%) အား C.S.R ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။ ၎င်း(၂%)၏ (၂၀%)အား ပညာရေးအတွက်လည်းကောင်း၊ (၂၅%)အား ကျန်းမာရေးအတွက်လည်းကောင်း၊ (၂၀%)အား လမ်းပန်းဆက်သွယ်ရေးအတွက်နှင့် ကျန် (၃၅%) အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် သုံးစွဲရန် လျာထားပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



ဒေါ်မာမာခင်

Managing Director

SUPREME SERVICES TEAM HOTEL Co., Ltd

# လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ SUPREME SERVICES TEAM HOTEL Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ငထွေရှူးကျွန်းမြေ (၁၅) ဧကခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မှီ ဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ မဟာဓါတ်အားလိုင်းမှ ရယူအသုံးပြုနိုင်ခြင်းမရှိသည့်အတွက် ကိုယ်ပိုင်မီးစက် (Generator-150KVA) ကို အသုံးပြုဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်မာမာခင်

Managing Director

SUPREME SERVICES TEAM HOTEL Co., Ltd

ပုံစံ(၂)

# အဆိုပြုချက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဧပြီလ၊ ( ၅ )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏-

(က) အမည် ---- ဒေါ်မာမာခင်

(ခ) အဖအမည် ---- ဦးအောင်မြင့်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ---- ၁၂/အစန(နိုင်) ၁၂၂၂၁၆

နိုင်ငံကူးလက်မှတ်အမှတ် ----

(ဃ) နိုင်ငံသား ---- မြန်မာနိုင်ငံသား

(င) နေရပ်လိပ်စာ ---- အမှတ်(၁၇၀)၊ သုခလမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၁) ပြည်တွင်း ----

(၂) ပြည်ပ ----

(စ) တယ်လီဖုန်း/ဖက်စ် ---- 01 393203, (Fax) 01 393086

(ဆ) အီးမေးလ်လိပ်စာ ---- reserve@PVRngapali.com

(ဇ) ပင်မကုမ္ပဏီအမည် ---- SUPREME SERVICES TEAM HOTEL CO.,LTD

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ---- အခန်း(S-5)၊ ဒုတိယထပ်၊ မြောက်ဘက်တန်း၊ အောင်ဆန်းကွင်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်။

(ည) လုပ်ငန်းအမျိုးအစား ---- ဟိုတယ်လုပ်ငန်း

၁၂-၂။ အပန်းဖြေစခန်းတရားဝင်စတင်ဖွင့်လှစ်သည့်နေ့သည် ဤ (B.O.T) စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃၆)လထက်နောက်မကျစေရ။

၁၂-၃။ လုပ်ကိုင်ခွင့်ရသူသည် အပန်းဖြေစခန်းများတည်ဆောက်ရာတွင် အဆောက်အဦပုံစံပြောင်းလဲခြင်း၊ ထပ်မံတိုးချဲ့ခြင်းစသည့် လုပ်ငန်းများလုပ်ကိုင်လိုပါက ထပ်မံဖြည့်ဆည်းသည့် အစိတ်အပိုင်းများ၊ ပစ္စည်းများကို တွက်ချက်ဖော်ပြ၍ လုပ်ကိုင်ခွင့်ပြုသူနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်ရမည်။

၁၂-၄။ လုပ်ကိုင်ခွင့်ရသူသည် ငွေကြေးသုံးစွဲမှုစာရင်းဇယားများကို အတွင်းစာရင်းစစ်ထားရှိပြီး နိုင်ငံတကာ စံနှုန်းများနှင့်အညီ ပြည်ထောင်စုစာရင်းစစ်ချုပ်ဥပဒေနှင့်အညီ ပြုစုထားရှိရမည်။

## ၁၃။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၃-၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင် မီးဘေး၊ ရေဘေး၊ လေဘေး၊ မိုးကြိုး၊ မုန်တိုင်း၊ မြေပြိုခြင်း၊ မြေငလျင်၊ ရေလွှမ်းခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း အစရှိသည့် သဘာဝအန္တရာယ်များကျရောက်ခြင်း၊ နိုင်ငံတော် အစိုးရ၏တားမြစ်ကန့်သတ်ခြင်း၊ ဆန္ဒပြခြင်း၊ ပြည်သူလူထု/ရန်သူ၏နှောက်ယှက်မှု၊ စစ်ပွဲဖြစ်ပွားခြင်း၊ ပိတ်ဆို့ဟန့်တား ခံရခြင်း၊ တော်လှန်ပုန်ကန်ခြင်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်၍မရနိုင်လောက်သည့် ဒေသန္တရ ဆူပူအုံကြွမှုများစသည်တို့ပါဝင်ပြီး စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက် စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကိုဆိုလိုသည်။

၁၃-၂။ အပန်းဖြေစခန်းတည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ဆောင်ခြင်း၊ လုပ်ငန်းနှင့်စပ်လျဉ်း၍ စီမံရေးရာကိစ္စရပ်များ ဆောင်ရွက်ခြင်းသည် အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်များ ဖြစ်ပွားခြင်းကြောင့် လျော့ကျနှောင့်နှေးတားဆီး ခံခဲ့ရခြင်းများ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများ ဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များအား အကောင် အထည်ဖော်မှုများကို သက်ရောက်မှုရှိခဲ့ပါက အဆိုပါဖြစ်ပွားသည့်ကာလနှင့် တူညီသောကာလကို နှစ်ဖက် အပြန်အလှန်ညှိနှိုင်းဆုံးဖြတ်၍ သတ်တမ်းတိုးမြှင့်ပေးရန်ဖြစ်သည်။ နစ်နာဆုံးရှုံးမှုများဖြစ်ပေါ်လျှင် အငှားချထားခြင်း ခံရသူသည် အငှားချထားသူ ထံသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၁၃-၃။ အဆိုပါ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဖြစ်ပွားသည်နှင့်စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်ရမှုလုပ်ငန်းအပေါ် အကျိုးသက်ရောက်မှုရှိလာခဲ့သည့်အဖွဲ့အစည်းသည် ဖြစ်ပွားသည့်နေ့ရက်မှ(၁၄)ရက်အတွင်း စာဖြင့်ရေးသား အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်ကလက်ခံအတည်ပြုလျှင် စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာရာရစေရန် ကျိုးကြောင်း ဆီလျော်စွာညှိနှိုင်းတိုင်ပင်၍ ဆောင်ရွက်သွားရမည်။

## ၁၄။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၄-၁။ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့အကြား ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ အငြင်းပွားမှုဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ဖြေရှင်းရမည်။

၁၄-၂။ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့သည် အထက်အပိုဒ်(၁၄-၁)ပါအတိုင်းငြိမ်းချမ်းသောနည်းလမ်းဖြင့် မဖြေရှင်းနိုင်ခဲ့ပါက တည်ဆဲဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။ အငြင်းပွားမှု ဖြေရှင်းခြင်းနှင့်သက်ဆိုင်သော စရိတ်စကများကိုရှုံးနိမ့်သည့်စာချုပ်ဝင်မှ ကျခံရမည်။

၁၄-၃။ ခုံရုံးတည်နေရာကိုလုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူသတ်မှတ်ပါသည်။

၁၄-၄။ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့်ဘာသာစကားမှာ မြန်မာဘာသာစကားဖြစ်သည်။

**၁၅။ စာချုပ်အစိတ်အပိုင်းများ**

၁၅-၁။ ဤစာချုပ်နှင့်အတူပူးတွဲထားသော စာရွက်စာတမ်း၊ မြေပုံ၊ စာရင်းဇယားတို့သည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရမည်။

**၁၆။ စာချုပ်ပြင်ဆင်ခြင်း**

၁၆-၁။ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့်ရေးသားဖော်ပြပြီး ပြင်ဆင်နိုင်သည်။

၁၆-၂။ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်ကိုစာချုပ်ဝင်များက လက်မှတ်ရေးထိုးထားရမည်။

၁၆-၃။ ပြင်ဆင်ချက်သည် ဤသဘောတူစာချုပ်၏ အစိတ်အပိုင်းအဖြစ်မှတ်ယူရမည်။

၁၆-၄။ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးရမည်။

**၁၇။ စာချုပ်ရပ်စဲခြင်း**

၁၇-၁။ ဤသဘောတူစာချုပ်ကို အောက်ဖော်ပြပါအချက်များထဲမှ အကြောင်းအချက်တစ်ခုဖြစ်ပေါ်လာပါက စာချုပ်ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်များနှစ်ဖက်အပြန်အလှန် သဘောတူညီချက်ဖြင့်ရပ်စဲခြင်း ။

(ခ) လုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါစည်းကမ်းချက်များကို အကောင်အထည်ဖော် ဆောင်ရွက်နိုင်စွမ်းမရှိတော့ခြင်း ။

(ဂ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်း ။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကြောင့် နှစ်ဦးနှစ်ဖက် ဘက်လိုက်မှုမရှိဘဲ ဆုံးဖြတ်ရပ်နားခဲ့သည့် ကာလသည်(၆)လကျော်လွန်သွားခြင်း။

(င) လုပ်ကိုင်ခွင့်ရသူသည် သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၆၅)ရက်အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို လုံးဝစတင်နိုင်မှုမရှိခြင်း။

(စ) ဤတည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာ၊ (B.O.T)စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့်

လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်းစာချုပ်မှ အစိတ်အပိုင်းတစ်ခုအဖြစ်မှတ်ယူသည့်အလျောက် အဆိုပါစာချုပ်ရပ်စဲပါက ဤစာချုပ်မှာလည်းအလိုအလျောက်ရပ်စဲသည်။

၁၇-၂ ဤစာချုပ်ရပ်စဲပြီးသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြရမည်။

**၁၈။ မြေနှင့်အဆောက်အဦများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၈-၁။ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့်သက်တမ်းကာလကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ ယင်းနေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း ငှားရမ်းသည့်မြေကို မူလလုပ်ကိုင်ခွင့်ပြုသူထံသို့ မြေအနေအထားပျက်စီးယိုယွင်းမှုမဖြစ်ပေါ်စေဘဲ အပ်နှံရမည်။

၁၈-၂။ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းနှင့်သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့်သက်တမ်းကာလကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ ယင်းနေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းနှင့်ဆက်စပ်သည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများအပါအဝင် ပစ္စည်းများအားလုံးကို အဖိုးစားနားမပါဘဲ လုပ်ကိုင်ခွင့်ပြုသူထံသို့ လွှဲပြောင်းပေးအပ်ရမည်။

**၁၉။ မြေနှင့်အဆောက်အဦးသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၁၉-၁။ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပါက လုပ်ကိုင်ခွင့်ပြုသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာ ဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ရမည်။

၁၉-၂။ လုပ်ကိုင်ခွင့်ရသူသည် ပျက်ကွက်မှုများကိုပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လုပ်ကိုင်ခွင့်ပြုသူက အကြောင်းကြားစာပေးပို့သော်လည်း ယင်းအကြောင်းကြားစာပါကာလအတွင်း ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန်ပျက်ကွက်နေပါက လုပ်ကိုင်ခွင့်ပြုသူသည် မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူ ခြင်းမှာ လုပ်ကိုင်ခွင့်ပြုသူက လုပ်ကိုင်ခွင့်ရသူထံမှ ငှားရမ်းခ(သို့မဟုတ်) ပစ္စည်းဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**၂၀။ လိုက်နာရမည့်ဥပဒေ**

၂၀-၁။ ဤသဘောတူစာချုပ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

**၂၁။ စာချုပ်အားပြန်လည်စေ့စပ် ညှိနှိုင်းခြင်း**

၂၁-၁။ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်အကန် အကောင်အထည်

ဖော်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည် စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

## ၂၂။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း

၂၂-၁။ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့်ဧရိယာတစ်ခုလုံးကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေပါပြဌာန်းချက်များနှင့်အညီ လိုအပ်သည်များကို ကာကွယ်စောင့်ရှောက် ရမည်။

၂၂-၂။ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် ဧရိယာပတ်ဝန်းကျင်၏ ရေထု၊ လေထုများအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင်ထိန်းသိမ်းခြင်း၊ တောတောင်ရေမြေဂေဟစနစ်များ မထိခိုက်မပျက်စီးအောင် ကာကွယ်စောင့်ရှောက်ခြင်းတို့ကို ကြိုတင်စီမံဆောင်ရွက်ထားရမည်။

၂၂-၃။ လုပ်ကိုင်ခွင့်ရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ အမှိုက်များနှင့်အညစ်အကြေးများကို စနစ်တကျသိမ်းဆည်းပြီး သန့်စင်စနစ်များဖြင့်ဆောင်ရွက်၍ သဘာဝပတ်ဝန်းကျင်မထိခိုက်အောင်ပြုလုပ်ရမည်။

၂၂-၄။ လုပ်ကိုင်ခွင့်ရသူသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့်စပ်လျဉ်းသည့် လူမှုဘဝထိခိုက်မှု ဆန်းစစ် လေ့လာချက် Environmental Social impact Assessment (ESIA)ဆောင်ရွက်မှု စီမံချက်ရေးဆွဲ၍ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများမစတင်မီ ဆန်းစစ်လေ့လာချက် ဆောင်ရွက်ပြီး လုပ်ကိုင်ခွင့်ပြုသူထံ ကြိုတင် အစီရင်ခံရမည်။

## ၂၃။ သယံဇာတတွေ့ရှိခြင်း

၂၃-၁။ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းအတွင်း အငှားများချထားသည့်မြေပေါ်၊ မြေအောက်မှ သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓာတ်သတ္တုများ၊ ရေနံ၊ ဓာတု ဆိုင်ရာပစ္စည်းများအပါအဝင် အဖိုးတန်သဘာဝအရင်းအမြစ်များတွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုများကို ချက်ချင်းရပ်ဆိုင်းပြီး လုပ်ကိုင်ခွင့်ပြုသူထံသို့ ချက်ချင်းအကြောင်းကြားအသိပေးရမည်။ လုပ်ကိုင်ခွင့်ပြုသူ၏ ညွှန်ကြားချက်နှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်သည်။

## ၂၄။ ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် ပါဝင်ပူးပေါင်းဆောင်ရွက်ခြင်း (CSR)

၂၄-၁။ ဤသဘောတူစာချုပ်စာပိုဒ်(၂-၃)ပါ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် ဝင်ငွေများထဲမှ အသားတင်အမြတ်၏ ၂%(နှစ် ရာခိုင်နှုန်း)(သို့မဟုတ်) ငွေကျပ် ၂၀၀၀၀၀၀၀/-ကျပ်(ကျပ်သိန်း နှစ်ရာတိတိ)တို့အနက် များရာပမာဏကိုဒေသဖွံ့ဖြိုးရေး ရံပုံငွေအဖြစ်သတ်မှတ်လျက် လုပ်ကိုင်ခွင့်ရသူက လုပ်ငန်း

ဆောင်ရွက်ရာဒေသ၌ ဖွံ့ဖြိုးရေးလုပ်ငန်းများကိုဆောင်ရွက်ပေးရမည်။ ယင်းဒေသဖွံ့ဖြိုးရေးရံပုံငွေကို(၂)နှစ် (၁)ကြိမ် နှစ်ဖက်စုံညီညှိနှိုင်းလျက် အတိုး၊လျှော့ပြုလုပ်ကြရန်ဖြစ်သည်။

**၂၅။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၂၅-၁။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှာ ၂၀၁၈ခုနှစ်၊ လ၊ ( )ရက်နေ့ဖြစ်သည်။

**၂၆။ အကြောင်းကြားခြင်း**

၂၆-၁။ နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါအတိုင်းဆက်သွယ်အကြောင်းကြားပါမည်-

(က) အကြောင်းကြားသည့်စနစ်မှာ စာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်)တို့ဖြင့် လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူးဆက်သားဖြင့် ဆက်သွယ် ၍လည်းကောင်း အကြောင်းကြားဆက်သွယ်ပါမည်။

(ခ) **ဆက်သွယ်ရန်လိပ်စာ**

**လုပ်ကိုင်ခွင့်ပြုသူ(ကိုယ်စား)**

အမည် - ဦးကောင်းစံဦး

မှတ်ပုံတင်အမှတ် - ၁၂/မဘန(နိုင်)၀၁၀၂၂၆

လိပ်စာ - အတွင်းရေးမှူး

- တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

- ထားဝယ်မြို့

ဖုန်းနံပါတ် - ( )

ဖက်(စ်) - (၉၅)-၅၉-၂၀၂၃၆၀၀

**လုပ်ကိုင်ခွင့်ရသူ(ကိုယ်စား)**

အမည် - ဒေါ်မာမာခင်

မှတ်ပုံတင်အမှတ် - ၁၂/အစန(နိုင်)၁၂၂၂၁၆

လိပ်စာ - အမှတ်(၁၇၀)၊သုခလမ်း၊ လှိုင်မြို့နယ်၊အင်စိန်ခရိုင်၊ ရန်ကုန်တိုင်းဒေသကြီး ။

ဖုန်းနံပါတ် - ~~(၉၅)-၁-၂၃၉၃၀၈၆၊ ၃၉၃၂၀၃~~

E-mail - reserve@PVRngapali.com

၂၇။ အထွေထွေ

၂၇-၁။ စာချုပ်ပါစည်းကမ်းချက်များ၊ အကြောင်းအရာများအားလုံးကို စာချုပ်ဝင်များသည် ဖတ်ရှုနားလည်သိရှိပြီး သဘောတူလက်ခံပြီးဖြစ်သည့်အလျောက် ၂၀၁၈ ခုနှစ်၊-----------လ၊---------- ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပါသည်။

**လုပ်ကိုင်ခွင့်ပြုသူ(ကိုယ်စား)**

ဦးကောင်းစံဦး
အတွင်းရေးမှူး
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
ထားဝယ်မြို့

**လုပ်ကိုင်ခွင့်ရသူ(ကိုယ်စား)**

ဒေါ်မာမာခင်
မန်နေဂျင်းဒါရိုက်တာ
SUPREME SERVICES TEMHOTEL Co,Ltd

**အသိသက်သေများ**

**အမည်** ----------------------
**မှတ်ပုံတင်** ----------------------
**နေရပ်** ----------------------
----------------------
----------------------

**အမည်** ----------------------
**မှတ်ပုံတင်** ----------------------
**နေရပ်** ----------------------
----------------------
----------------------

## အဒက်ကြီးကျေးရွာအုပ်စု ငထွေးရှုးကျွန်းတွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက်

## SUPREME SERVICES TEAM Hotel Company , Limited မှ

## လျှောက်ထားသည့်ပတ်ဝန်းကျင်ပြပုံ






ကွင်းအမှတ် ၂၅ / OSS
အဒက်ကြီးကြေးကိုင်မြင်ကွင်း
အဒက်ကြီးကျေးရွာအုပ်စု
ကော့သောင်းမြို့နယ်

ရှည်ညွှန်းချက်

| | |
|---|---|
| လျှောက်ထားသူအမည် | SUPREME SERVICES TEAM Hotel Company ,Ltd |
| လျှောက်ထားသည့်ဧရိယာ | ၁၅ဧက |
| လျှောက်ထားသည့်မြေအမျိုးအစား | တောရိုင်းမြေ |
| လုပ်ငန်းအမျိုးအစား | ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက် |

မြေပုံညွှန်း 1097 -16 UTM

A - 898114
B - 900114
C - 900110
D - 902110

ရေးပေါင်းဧရိယာ - ၁၅ဧက

( ကောင်းထက်မိုး )
မြေတိုင်း(၅)
ကော့သောင်းမြို့

ဓာဒက်ကြီးကျေးရွာအုပ်စု ငထွေးရှုကျွန်းတွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက်

**SUPREME SERVICES TEAM Hotel Company , Limited** မှ

လျှောက်ထားသည့်တည်နေရာပြမြေပုံ




ကွင်းအမှတ်၊ ၂၅ / OSS
ဓာဒက်ကြီးကြေးတိုင်ပြင်ကွင်း
ဓာဒက်ကြီးကျေးရွာအုပ်စု
ကော့သောင်းမြို့နယ်

ရည်ညွှန်းချက်

မြေပုံညွှန်း **1097 -16 UTM**

| | |
|---|---|
| လျှောက်ထားသူအမည် | **SUPREME SERVICES TEAM Hotel Company ,Ltd** |
| လျှောက်ထားသည့်ဧရိယာ | ၁၅ဧက |
| လျှောက်ထားသည့်မြေအမျိုးအစား | တောရိုင်းမြေ |
| လုပ်ငန်းအမျိုးအစား | ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက် |

**A - 898114**
**B - 900114**
**C - 900110**
**D - 902110**

စုစုပေါင်းဧရိယာ = ၁၅ဧက

( ကောင်းထက်မိုး )
မြေတိုင်း(၅)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

လက်ထောက်ဦးစီးမှူး
တိုက်နယ်အမှတ်( ၂ )
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

အောင်ကျော်မိုး
မြို့နယ်ဦးစီးဌာနမှူး
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

**SUPREME SERVICES TEAM HOTEL Co,Ltd**

တို့အကြားချုပ်ဆိုသော

မြေငှားခြင်းဆိုင်ရာ **(Lease Agreement)**

သဘောတူစာချုပ် (မူကြမ်း)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ လ ( )ရက်

**မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်**

**Lease Agreement**

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

**နှင့်**

**SUPREME SERVICES TEAM HOTEL Co,Ltd**

**တို့အကြား**

**ချုပ်ဆိုသောမြေငှားခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)**

**မာတိကာ**

၁၉။ စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း။

၂၀။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း။

၂၁။ သယံဇာတတွေ့ရှိခြင်း။

၂၂။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့။

၂၃။ အကြောင်းကြားခြင်း။

၂၄။ အထွေထွေ။

**မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်**

**Lease Agreement**

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

**နှင့်**

**SUPREME SERVICES TEAM HOTEL Co,Ltd**

**တို့အကြား**

**ချုပ်ဆိုသောမြေငှားရမ်းခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)**

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ၂၀၁၈ ခုနှစ်၊ လ( )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့တွင် ဦးကောင်းစံဦး၊ မှတ်ပုံတင်အမှတ်၊ ၁၂/မဘန(နိုင်) ၀၁၀၂၂၆၊ အတွင်းရေးမှူးကိုယ်စားပြုသော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့ (နောင်တွင် "အငှားချထားသူ"ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများနှင့်ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟုမှတ်ယူရမည်။)

ကတစ်ဖက်

ဒေါ်မာမာခင်၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်၊ ၁၂/အစန(နိုင်)၁၂၂၂၁၆၊ မံန်နေးဂျင်းဒါရိုက်တာကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အောင်ဆန်းကွင်းမြောက်ဘက်တန်း၊ အခန်းအမှတ်(S/5)၊ ဒုတိယထပ်၊ City Mart အပေါ်ထပ်တွင်ဖွင့်လှစ်ထားသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ တည်ထောင်ထားသည့်အစုရှယ်ယာရှင်များနှင့် ကန့်သတ်ထားရှိသော ပုဂ္ဂလိကကုမ္ပဏီဖြစ်သည့် မြန်မာနိုင်ငံသားပိုင် SUPREME SERVICES TEAM HOTEL Co,Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ၎င်းအားဆက်ခံသူများနှင့်ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)ဟု မှတ်ယူရမည် အခြားတဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ကော့သောင်းမြို့နယ်၊ ငထွေးရှူးကျွန်း၊ မြေပုံအညွှန်း (A-898114, B-900114, C-900110, D-902110 )ရှိ မြေဧရိယာ(၁၅)ဧကတွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ခြင်းကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။ ဤသဘောတူစာချုပ်တွင် တစ်ဦးတစ်ဖက်ကို ရည်ညွှန်းပါက"စာချုပ်ဝင်"ဟုခေါ်ဝေါ်သုံးစွဲမည်ဖြစ်ပြီး နှစ်ဦးနှစ်ဖက်လုံးကိုရည်ညွှန်းပါက "စာချုပ်ဝင်များ"ဟု ခေါ်ဝေါ်သုံးစွဲပါမည်။

၁။ **ရည်ရွယ်ချက်**

၁-၁။ မြန်မာ့ပင်လယ်ပြင်သဘာဝအရင်းအမြစ်များနှင့် ကျွန်းများ၏ဂေဟစနစ်များကို သွားရောက်ကြည့်ရှုလေ့လာနိုင်ရန်၊ ဒေသတွင်းကမ္ဘာလှည့်ခရီးသွားလုပ်ငန်းများဖွံ့ဖြိုးတိုးတက်လာစေရန်၊ ဟိုတယ်လုပ်ငန်းနှင့် ဘန်ဂလိုအဆောက်အဦးများ ဖွံ့ဖြိုးတိုးတက်လာစေရန်၊ ၎င်းနှင့်ဆက်စပ်သောလုပ်ငန်းများ တည်ဆောက်လုပ်ကိုင်သွားရန် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာပြီး ဝင်ငွေပိုမိုတိုးတက်ရရှိစေရန်နှင့် နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စည်ပင်လာစေရန် ရည်ရွယ်ပါသည်။

၂။ **အဓိပ္ပာယ်ဖွင့်ဆိုချက်များ**

၂-၁။ **သဘောတူစာချုပ်**

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်း မြို့နယ်၊ ငထွေရှူးကျွန်းမြေနေရာ အကျယ်အဝန်း(၁၅)ဧကရှိ မြေပုံအညွှန်း(A-898114, B-900114, C-900110, D-902110 )ရှိမြေနေရာပေါ်တွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်သွားမည့် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ဆိုလိုသည်။
(မြေပုံကိုနောက်ဆက်တွဲ (      )ဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်။)

၂-၂။ **ဘဏ္ဍာရေးနှစ်**

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှ နောင်နှစ် မတ်လ(၃၁) ရက်နေ့အထိ (၁၂)လတာ ကာလကိုဆိုလိုသည်။

၂-၃။ **အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့**

အပန်းဖြေစခန်းတရားဝင်ဖွင့်သည့်နေ့ဆိုသည်မှာ ဤသဘောတူစာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍(၃၆)လအတွင်း(သို့မဟုတ်) အပန်းဖြေစခန်းနှင့်အဆောက်အဦးများ ဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး၊ ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံ ဆောင်ရွက်သည့်နေ့ကိုဆိုလိုသည်။

၂-၄။ **အသုံးပြုနိုင်သောမြေ**

အသုံးပြုနိုင်သောမြေဆိုသည်မှာ အပန်းဖြေစခန်းနှင့်ဆက်စပ်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုလိုသည်။

၂-၅။ **အရံထားရှိသည့်မြေ**

အရံထားရှိသည့်မြေဆိုသည်မှာ လက်ရှိအခြေအနေတွင် မည့်သည့်လုပ်ငန်းများကိုမျှ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုဘဲ နောင်တစ်ချိန်တွင်အသုံးပြုလိုပါက အသုံးပြုနိုင်သောမြေအဖြစ် ပြောင်းလဲခွင့်ပြုချက်ရယူဆောင်ရွက်ရန် သတ်မှတ်ထားသောမြေကိုဆိုလိုသည်။

**၃။အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

**၃-၁။** အငှားချထားသူသည် တနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းခရိုင်အတွင်းရှိ ယခုဤသဘောတူစာချုပ်ကို ချုပ်ဆိုသော ငထွေရှူးကျွန်းမြေနေရာကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်သည်။

၃-၂။ အငှားချထားခြင်းခံရသူသည် အထက်ဖော်ပြပါအရပ်ဒေသတွင် အပန်းဖြေစခန်းလုပ်ဆောင်ရန်၊ အဆောက်အဦးများဆောက်လုပ်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပြီး လုပ်ကိုင်နိုင်စွမ်းရှိသည့် အတတ်ပညာရှင်၊ အသိပညာရှင်များ အပြည့်အဝရှိကြောင်းအာမခံသည်။

၃-၃။ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးသူများသည် လုပ်ငန်းတာဝန်အရ ဤစာချုပ်ကို လက်မှတ်ရေးထိုး ပိုင်ခွင့်အာဏာရှိသူများဖြစ်ကြသည်။

၄။ **မြေငှားရမ်းကာလသတ်မှတ်ခြင်း**

၄-၁။ အငှားချထားသူသည် ဤသဘောတူစာချုပ်အပိုဒ်(၂-၁)ပါ မြေဧရိယာစုစုပေါင်း(၁၅)ဧကကို အငှားချထားသူသို့ နှစ်ရှည်ငှားရမ်း၍ ၎င်းမြေပေါ်တွင်အပန်းဖြေစခန်းလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူညီသည်။ ငှားရမ်းသည့်ကာလမှာ ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှစ်ပေါင်း(၅၀) သတ်မှတ်သည်။

၅။ **စာချုပ်သက်တမ်းသတ်မှတ်ခြင်း**

၅-၁။ အငှားချထားသူသည် လုပ်ကိုင်ခွင့်ရသူသို့ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ မြေဧရိယာ(၁၅)ဧကရှိ ပင်လယ်ကမ်းခြေမြေနေရာကို နှစ်ပေါင်း(၅၀)ငှားရမ်းအသုံးပြုခွင့်ပြုသည်။ သို့ဖြစ်၍ ဤစာချုပ်ကနဦးသက်တမ်းကို (  - - ၂၀၁၈)ရက်နေ့မှ(  -  - ၂၀၆၈ )ရက်နေ့အထိ နှစ်ပေါင်း(၅၀) သတ်မှတ်သည်။

၆။ **စာချုပ်သက်တမ်းတိုးခြင်း**

**၆-၁။** အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်သက်တမ်းပြည့်သည်အခါ ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်တစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်ငှားရမ်းခွင့်ပြုရန် တင်ပြဆောင်ရွက်ခွင့်ရှိသည်။

၆-၂။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းပြည့်ပြီးနောက် ဆက်လက်တိုးမြှင့်ငှားရမ်းလုပ်ကိုင်လိုပါက သက်တမ်းမစေ့ရောက်မီ အနည်းဆုံး(၆)လကြိုတင်၍ အငှားချထားသူထံစာဖြင့် ရေးသားလျှောက်ထားရမည်။ အငှားချထားသူက ဆုံးဖြတ်သည့်အတိုင်း အငှားချထားခြင်းခံရသူက လိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

**၇။မြေအသုံးချမှုအာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း**

**၇-၁။** လုပ်ကိုင်ခွင့်ရရှိသူသည် ငထွေးရှူးကျွန်းမြေဧရိယာ(၁၅)ဧကအတွက် အသုံးချမှုအာမခံကြေးအဖြစ် အောက်ပါအတိုင်းခွဲခြားသတ်မှတ်ပြီး ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် အငှားချထားခွင့်ပြုသူ၏ ငွေစာရင်း ခေါင်းစဉ်အမှတ်(                                        )ဖြင့် ဘဏ်သို့ပေးသွင်းရမည်။

(က) **အသုံးပြုနိုင်သောမြေ**

(၁၅)ဧက × ၁၀၀၀၀၀ = ကျပ် ၁၅၀၀၀၀၀

၇-၂။ အငှားချထားခြင်းခံရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခကို အောက်ပါအတိုင်း တွက်ချက်ပေးသွင်းရမည်။

**ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ**

| | | |
|---|---|---|
| (အခန်း ၁၅ ခန်း (Sea View) *USD 120* 365)၏၃၅% | = | ၂၂၉၉၅၀ USD |
| (အခန်း ၁၅ ခန်း (Garden View)*USD 80 *365)၏ ၃၅% | = | ၁၅၃၃၀၀ USD |
| (အခန်း ၁၅ ခန်း (Mountain View)*USD 60*365)၏၃၅% | = | ၁၁၄၉၇၅ USD |
| **စုစုပေါင်း** | = | ၄၉၈၂၂၅ USD |

(ခ) **အခြားဝင်ငွေ**

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ၏ ၁၀ % = ၄၉၈၂၂. ၅ USD

(ဂ) **ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ**

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ+အခြားဝင်ငွေ = ၅၄၈၀၄၇. ၅ USD

(ဃ) **နှစ်စဉ်မြေငှားရမ်းခ**

ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ၏ ၅% = ၅၄၈၀၄၇. ၅ ၏ ၅%

= ၂၇၄၀၂. ၃၇၅ USD

၇-၃။ အငှားချထားခြင်းခံရသူသည် နှစ်စဉ်မြေငှားရမ်းခကိုတစ်နှစ်လျှင်(၂)ကြိမ်အရစ်ကျပေးချေရမည်။ ပထမဆုံးအရစ်ကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် ဟိုတယ်တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရမည်။ ပထမအရစ်ပေးချေသည့်ငွေမှာ ( USD ၁၅၀၀၀ )ဖြစ်ပါသည်။ ဒုတိယအရစ်ကို ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁)ရက်နေ့မတိုင်မီ ပေးချေရမည်။ ဒုတိယအရစ်ပေးချေရမည့်ငွေမှာ( USD ၁၂၄၀၂. ၃၇၅ )(သို့မဟုတ်) ဟိုတယ်လုပ်ငန်း ဝင်ငွေအခြေခံတွက်ချက်မှု၏ ၅%သည် ပိုမိုများနေပါက ယင်းငွေအနက် ပထမအရစ်တန်းဖိုးငွေ ထုတ်နုတ်၍ ကျန်ငွေပမာဏကိုပေးသွင်းရမည်။

၇-၄။ မြေငှားရမ်းခပေးသွင်းရာတွင် ငွေပေးသွင်းမှုနောက်ကျပါက အငှားချထားခြင်းခံရသူသည် နောက်ကျကြေး အဖြစ် တစ်ရက်လျှင် ကျပ်ငွေ ၅၀၀၀၀ (ကျပ်ငါးသောင်းတိတိ)နှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရမည်။ သို့သော် နောက်ကျကြေးပေးသွင်းမှုကို(၂)လထက် ကျော်လွန်ခြင်းမရှိစေရ။

၇-၅။ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်ရက်စွဲသည် တည်ဆောက်ရေးကာလသတ်မှတ်ရက်ထက် မကျော်လွန်စေရ။ အကယ်၍ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့သည် တည်ဆောက်ရေးကာလ သတ်မှတ်ချက်ထက်ကျော်လွန်ပါက နှစ်စဉ်ငှားရမ်းခကို အဆိုပါတည်ဆောက်ရေးကာလ စေ့ရောက်သည့် နေ့မှစ၍ပေးချေရမည်။

**၈။တည်ဆောက်ရေးကာလသတ်မှတ်ခြင်း**

၈-၁။ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆)လအတွင်း အပန်းဖြေစခန်းတည်ဆောက်ရေး လုပ်ငန်းများကို သတ်မှတ်နယ်မြေတွင် အပြီးဆောက်လုပ်ရမည်။

၈-၂။ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကနဦးပတ်ဝန်းကျင်လေ့လာခြင်းကာလကို(၆)လတာ ကာလသတ်မှတ်သည်။ တည်ဆောက်ရေးကာလကို(၃၀)လသတ်မှတ်၍ အပြီးဆောင်ရွက်ရမည်။

**၉။အငှားချထားသူ၏တာဝန်များ**

**၉-၁။** အငှားချထားသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ စတင်အကျိုး သက်ရောက်သည့်နေ့မှစ၍ အငှားချထားခြင်းခံရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောက်အယှက်မရှိ အေးချမ်းစွာလုပ်ကိုင်နိုင်ရန် ဆောင်ရွက်ပေးရမည်။

၉-၂။ အငှားချထားသူသည် အငှားချထားခြင်းခံရသူကပေးရန်ရှိသည့် မြေငှားရမ်းခများကို သတ်မှတ်ကာလအတွင်း မှန်ကန်စွာပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၉-၃။ အငှားချထားသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိက တရားဝင်တာဝန်ပေးအပ်သည့် လူပုဂ္ဂိုလ်အဖွဲ့အစည်းက လည်းကောင်း၊ အငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်မှုများကို ကြိုတင်အသိပေး အကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

**၁၀။ အငှားချထားခြင်းခံရသူ၏တာဝန်များ**

၁၀-၁။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ မိမိ၏လုပ်ငန်းများကို အချိန်မှီပြီးစီးအောင် ဆောင်ရွက်ရမည်။

၁၀-၂။ အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသောမြေငှားရမ်းခနှင့်အခြားအခွန်အခများကို အချိန်မီ မပျက်မကွက်ပေးသွင်းရမည်။ ထို့အတူ သတ်မှတ်ထားသည့်တံဆိပ်ခေါင်းကပ်ခြင်း၊ စာချုပ်မှတ်ပုံတင်ခြင်းတို့ကို တစ်ပါတည်းဆောင်ရွက်ရမည်။

၁၀-၃။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါလုပ်ငန်းမှအပ အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ငှားရမ်းသည့်မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၁၀-၄။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦများတိုးချဲ့ခြင်းနှင့် ပြောင်းလဲ ဆောင်ရွက်ရန်ကိစ္စများဖြစ်ပေါ်လာပါက အငှားချထားသူထံသို့စီမံချက်ရေးဆွဲ၍ မိမိလုပ်ကိုင်လိုသည့်ကာလမတိုင်မှီ (၃)လကြိုတင်တင်ပြအသိပေး သဘောတူညီချက်ရယူပြီးမှ ဆောင်ရွက်ရမည်။ နှစ်စဉ်မြေငှားရမ်းခမှာလည်း ထိုသို့ လုပ်ငန်းတိုးချဲ့ပြုပြင်သည်နှင့်အမျှ ပြောင်းလဲပေးသွင်းရမည်။

၁၀-၅။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရာတွင် အငှားချထားသူ၏ ခွင့်ပြုချက်မရရှိဘဲ ပေါင်နှံခြင်း၊ ထပ်ဆင့်အငှားချထားခြင်း၊ ငှားရမ်းသည့်မြေပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အဦအားလုံးကိုဖြစ်စေ၊ အစိတ်အပိုင်းတစ်ရပ်ရပ်ကိုဖြစ်စေ၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ တစ်ဆင့်အငှားချထားခြင်းများ ဆောင်ရွက်ခြင်းမပြုရန်။

၁၀-၆။ အငှားချထားခြင်းခံရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်း ကိစ္စများကို အငှားချထားသူထံမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြဆောင်ရွက်ရမည်။

၁၀-၇။ အငှားချထားခြင်းခံရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ်ကာလအတွင်း မြေမှအဖိုးတန်ရတနာပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့် အဖိုးတန်သယံဇာတပစ္စည်းများတွေ့ရှိပါက မိမိလုပ်ငန်းကိုဆက်လက်လုပ်ကိုင်ခြင်းမပြုဘဲ ခေတ္တရပ်နားပြီး အငှားချထားသူထံသို့ ချက်ချင်းအသိပေးရမည်။

၁၀-၈။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကွင်းမြေပေါ်တွင် သဘာဝအလျောက်ပေါက်ရောက်သော သစ်တော၊သစ်ပင်များရှိပါက စာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် သစ်တောထွက်ပစ္စည်းများထုတ်ယူခွင့်၊ သစ်တောထွက်ပစ္စည်းများ သယ်ယူရွှေ့ပြောင်းခွင့်ကို သစ်တောဥပဒေနှင့်အညီဆောင်ရွက်ရမည်။

၁၀-၉။ အငှားချထားခြင်းခံရသူသည် အငှားချထားသူက ၎င်းကိုယ်တိုင်သော်လည်းကောင်း၊ ၎င်းကတာဝန် ပေးသည့် ပုဂ္ဂိုလ်၊အဖွဲ့အစည်းကလည်းကောင်း အငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်ချက်များကို ကြိုတင် အသိပေး၍လာရောက်ကြည့်ရှုစစ်ဆေးပါက ခွင့်ပြုရမည်။

### ၁၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၁-၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင် မီးဘေး၊ ရေဘေး၊ လေဘေး၊ မိုးကြီး၊ မုန်တိုင်း၊ မြေပြိုခြင်း၊ မြေငလျင်၊ ရေလွှမ်းခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း အစရှိသည့် သဘာဝအန္တရာယ်များကျရောက်ခြင်း၊ နိုင်ငံတော် အစိုးရ၏ တားမြစ်ကန့်သတ်ခြင်း၊ ဆန္ဒပြခြင်း၊ ပြည်သူလူထု/ရန်သူ၏နှောက်ယှက်မှု၊ စစ်ပွဲဖြစ်ပွားခြင်း၊ ပိတ်ဆို့ဟန့်တား ခံရခြင်း၊ တော်လှန်ပုန်ကန်ခြင်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်၍မရနိုင်လောက်သည့် ဒေသန္တရဆူပူအုံကြွမှု စသည့် ဖြစ်ရပ်များပါဝင်ပြီး၊ စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကိုဆိုလိုသည်။

၁၁-၂။ အပန်းဖြေစခန်းတည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ဆောင်ခြင်း၊ လုပ်ငန်းနှင့်စပ်လျဉ်း၍ စီမံရေးရာကိစ္စရပ်များ ဆောင်ရွက်ခြင်းသည် အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်များ ဖြစ်ပွားခြင်းကြောင့် လျော့ကျနှောင့်နှေးတားဆီး ခံခဲ့ရခြင်းများ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများ ဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များအပေါ် အကောင် အထည်ဖော်မှုများကို သက်ရောက်မှုရှိခဲ့ပါက အဆိုပါဖြစ်ပွားသည့်ကာလနှင့် တူညီသောကာလကို နှစ်ဖက် အပြန်အလှန်ညှိနှိုင်းဆုံးဖြတ်၍ သတ်တမ်းတိုးမြှင့်ပေးရန်ဖြစ်သည်။ ဆုံးရှုံးနစ်နာမှုများဖြစ်ပေါ်လျှင် အငှားချထားခြင်း ခံရသူသည် အငှားချထားသူထံသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၁၁-၃။ အဆိုပါ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဖြစ်ပွားသည်နှင့်စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်ရမှုလုပ်ငန်းအပေါ် အကျိုးသက်ရောက်မှု ရှိလာခဲ့သည့်အဖွဲ့အစည်းသည် ဖြစ်ပွားသည့်နေ့ရက်မှ (၁၄)ရက်အတွင်း စာဖြင့်ရေးသား အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်မြောက်သည့် နှစ်ဖက်စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သောဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာရာရစေရန် ကျိုးကြောင်းဆီလျော်စွာ ညှိနှိုင်းတိုင်ပင်၍ ဆောင်ရွက်သွားရမည်။

## ၁၂။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၂-၁။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ အငြင်းပွားမှုဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။

၁၂-၂။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် အထက်အပိုဒ်ပါအတိုင်း ငြိမ်းချမ်းသောနည်းလမ်းဖြင့် မဖြေရှင်းနိုင်ခဲ့ပါက တည်ဆဲဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။ အငြင်းပွားမှု ဖြေရှင်းခြင်းနှင့်သက်ဆိုင်သော စရိတ်စကများကိုရှုံးနိမ့်သည့်စာချုပ်ဝင်မှ ကျခံရမည်။

၁၂-၃။ ခုံရုံးတည်နေရာကို လုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူသတ်မှတ်ပါသည်။

၁၂-၄။ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့်ဘာသာစကားမှာ မြန်မာဘာသာစကားဖြစ်သည်။

## ၁၃။ စာချုပ်အစိတ်အပိုင်းများ

၁၃-၁။ ဤစာချုပ်နှင့်အတူပူးတွဲထားသော စာရွက်စာတမ်း၊ မြေပုံ၊ စာရင်းဇယားတို့သည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ်သတ်မှတ်ရမည်။

## ၁၄။ စာချုပ်အားပြင်ဆင်ခြင်း

၁၄-၁။ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့်ရေးသားဖော်ပြ၍ ပြင်ဆင်နိုင်သည်။

၁၄-၂။ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်ကို စာချုပ်ဝင်များက လက်မှတ်ရေးထိုးရမည်။

၁၄-၃။ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်သည် ဤသဘောတူစာချုပ်၏ အစိတ်အပိုင်းအဖြစ် မှတ်ယူရမည်။

၁၄-၄။ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးရမည်။

## ၁၅။ စာချုပ်ရပ်စဲခြင်း

၁၅-၁။ ဤသဘောတူစာချုပ်ကို အောက်ဖော်ပြပါအချက်များထဲမှ အကြောင်းအချက်တစ်ခုဖြစ်ပေါ်လာပါက စာချုပ်ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်များနှစ်ဖက်အပြန်အလှန် သဘောတူညီချက်ဖြင့်ရပ်စဲခြင်း ။

(ခ) အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါစည်းကမ်းချက်များကို အကောင်အထည်ဖော် ဆောင်ရွက်နိုင်စွမ်းမရှိတော့ခြင်း ။

(ဂ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်း ။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကြောင့် နှစ်ဦးနှစ်ဖက် ဘက်လိုက်မှုမရှိဘဲ ဆုံးဖြတ်ရပ်နားခဲ့သည့် ကာလသည်(၆)လကျော်လွန်သွားခြင်း။

(င) အငှားချထားခြင်းခံရသူသည် သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း (၃၆၅)ရက် အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို လုံးဝစတင်နိုင်မှုမရှိခြင်း။

(စ) ဤမြေငှားရမ်းခြင်းစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ (B.O.T) တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်းစာချုပ်၏ အစိတ်အပိုင်း(၁)ခုအဖြစ် မှတ်ယူသည့်အလျောက် အဆိုပါစာချုပ်ရပ်စဲပါက ဤမြေငှားရမ်းခြင်းစာချုပ်သည်လည်း အလိုအလျောက်ရပ်စဲသည်။

၁၅-၂။ ဤစာချုပ်ရပ်စဲပြီးသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြရမည်။

**၁၆။ မြေနှင့်အဆောက်အဦများ ပြန်လည်လွှဲပြောင်းပေးခြင်း**

၁၆-၁။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့်သက်တမ်းကာလကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ငှားရမ်းသည့်မြေကို မူလအငှားချထားခံရသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှုမဖြစ်ပေါ်စေဘဲ အပ်နှံရမည်။

၁၆-၂။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့်သည့် သက်တမ်းကာလကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းနှင့်ဆက်စပ်သည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများအပါအဝင် ပစ္စည်းများအားလုံးကို အဖိုးစားနားမပါဘဲ အငှားချထားသူထံသို့ လွှဲပြောင်းပေးရမည်။

**၁၇။ မြေနှင့်အဆောက်အဦသို့ ပြန်လည်ဝင်ရောက်ခွင့်**

၁၇-၁။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပါက အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကိုပြုပြင်ရန် (သို့မဟုတ်) လိုက်နာ ဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ရမည်။

၁၇-၂။ အငှားချထားခြင်းခံရသူသည် ပျက်ကွက်မှုများကိုပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် အငှားချထားသူက အကြောင်းကြားစာပေးပို့သော်လည်း ယင်းအကြောင်းကြားစာပါကာလအတွင်း ယင်းကဲ့သို့

ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန်ပျက်ကွက်နေပါက အငှားချထားသူသည်သည် မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများသို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူခြင်းမှာ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ငှားရမ်းခ(သို့မဟုတ်) ပစ္စည်း ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၈။ လိုက်နာရမည့်ဥပဒေ

၁၈-၁။ ဤသဘောတူစာချုပ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

## ၁၉။ စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၁၉-၁။ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်အကန် အကောင်အထည် ဖော်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည် စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

## ၂၀။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း

၂၀-၁။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် ဧရိယာတစ်ခုလုံးကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သည်များကို ကာကွယ်စောင့်ရှောက်ရမည်။

၂၀-၂။ အငှားချထားခြင်းခံရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် ဧရိယာပတ်ဝန်းကျင်၏ ရေထု၊ လေထုများအား သတ်မှတ်ထားသည့်စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင်ထိန်းသိမ်းခြင်း၊ တောတောင်ရေမြေဂေဟစနစ်များ မထိခိုက်မပျက်စီးအောင် ကာကွယ်စောင့်ရှောက်ခြင်းတို့ကို ကြိုတင်စီမံဆောင်ရွက်ထားရှိရမည်။

၂၀-၃။ အငှားချထားခြင်းခံရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ အမှိုက်များနှင့်အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းပြီး သန့်စင်စနစ်များဖြင့်ဆောင်ရွက်၍ သဘာဝပတ်ဝန်းကျင်မထိခိုက်အောင် ပြုလုပ်ရမည်။

၂၀-၄။ အငှားချထားခြင်းခံရသူသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့်စပ်လျဉ်းသည့် လူမှုဘဝထိခိုက်မှု q efpfpaf v h mcsa f Environmental Social Impact Assessment (ESIA)ဆောင်ရွက်မှု စီမံချက်ရေးဆွဲ၍ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများမစတင်မီ ဆန်းစစ်လေ့လာချက် ဆောင်ရွက်သွားပြီး အငှားချထားသူထံ အစီရင်ခံတင်ပြရမည်။

## ၂၁။ သယံဇာတတွေ့ရှိခြင်း

၂၁-၁။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း အငှားများချထားသည့်မြေပေါ်၊ မြေအောက်မှ သယံဇာတပစ္စည်း၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓာတ်သတ္တုများ၊ ရေနံ၊ ဓာတုဆိုင်ရာပစ္စည်းများအပါအဝင် အဖိုးတန်သောသဘာဝအရင်းအမြစ်များတွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုများကို ချက်ချင်းရပ်ဆိုင်းပြီး အငှားချထားသူထံသို့ ချက်ခြင်းအကြောင်းကြားအသိပေးရမည်။ အငှားချထားသူ၏ ညွှန်ကြားချက်နှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်သည်။ အငှားချထားသူနှင့်သက်ဆိုင်ရာ အဖွဲ့အစည်းများသည် မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ဆောင်ရွက်ခွင့်ရှိသည်။

## ၂၂။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့

၂၂-၁။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှာ ၂၀၁၈ခုနှစ်၊ လ၊ ( )ရက်နေ့ဖြစ်သည်။

## ၂၃။ အကြောင်းကြားခြင်း

၂၃-၁။ နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါအတိုင်းဆက်သွယ်အကြောင်းကြားပါမည်-

(က) အကြောင်းကြားသည့်စနစ်မှာ စာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်)တို့ဖြင့်လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူးဆက်သားဖြင့် ဆက်သွယ်၍လည်းကောင်း အကြောင်းကြားဆက်သွယ်ပါမည်။

(ခ) **ဆက်သွယ်ရန်လိပ်စာ**

**အငှားချထားသူ(ကိုယ်စား)**

| | | |
|---|---|---|
| အမည် | - | ဦးကောင်းစံဦး |
| မှတ်ပုံတင်အမှတ် | - | ၁၂/မဘန(နိုင်)၀၁၀၂၂၆ |
| လိပ်စာ | - | အတွင်းရေးမှူး |
| | - | တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ |
| | - | ထားဝယ်မြို့ |
| ဖုန်းနံပါတ် | - | ( ) |
| ဖက်(စ်) | - | (၉၅)-၅၉-၂၀၂၃၆၀၀ |

**အငှားအချထားခြင်းခံရသူ (ကိုယ်စား)**

| | | |
|---|---|---|
| အမည် | - | ဒေါ်မာမာခင် |
| မှတ်ပုံတင်အမှတ် | - | ၁၂/အစန(နိုင်)၁၂၂၂၁၆ |

| | | |
|---|---|---|
| လိပ်စာ | - | အမှတ်(၁၇၀)၊သုခလမ်း၊ လှိုင်မြို့နယ်၊အင်စိန်ခရိုင်၊ ရန်ကုန်တိုင်းဒေသကြီး ။ |
| ဖုန်းနံပါတ် | - | (၉၅)-၁-၂၃၉၃၀၈၆၊ ၃၉၃၂၀၃ |
| E-mail | - | reserve@PVRngapali.com |

**၂၄။ အထွေထွေ**

၂၄-၁။ စာချုပ်ပါစည်းကမ်းချက်များ၊ အကြောင်းအရာများအားလုံးကို စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် ဖတ်ရှုနားလည်သိရှိပြီး သဘောတူလက်ခံပြီးဖြစ်သည့်အလျောက် ၂၀၁၈ ခုနှစ်၊--------------လ၊----------- ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပါသည်။

| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
|---|---|
| ဦးကောင်းစံဦး | ဒေါ်မာမာခင် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | SUPREME SERVICES TEMHOTEL Co,Ltd |
| ထားဝယ်မြို့ | |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| **အမည်** | ----------------------- | **အမည်** | ----------------------- |
| **မှတ်ပုံတင်** | ----------------------- | **မှတ်ပုံတင်** | ----------------------- |
| နေရပ် | ----------------------- | နေရပ် | ----------------------- |
| | ----------------------- | | ----------------------- |
| | ----------------------- | | ----------------------- |

## အခက်ကြီးကျေးရွာအုပ်စု ငထွေးရှုကျွန်းတွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက်

## SUPREME SERVICES TEAM Hotel Company , Limited မှ

## လျှောက်ထားသည့်ပတ်ဝန်းကျင်ပြမြေပုံ






ကွင်းအမှတ် ၂၅ / OSS
အခက်ကြီးကြိုးဝိုင်းပြင်ကွင်း
အခက်ကြီးကျေးရွာအုပ်စု
ကော့သောင်းမြို့နယ်

### ရည်ညွှန်းချက်

| | |
|---|---|
| လျှောက်ထားသူအမည် | SUPREME SERVICES TEAM Hotel Company ,Ltd |
| လျှောက်ထားသည့်ဧရိယာ | ၁၅ဧက |
| လျှောက်ထားသည့်မြေအမျိုးအစား | တောရှိုင်းမြေ |
| လုပ်ငန်းအမျိုးအစား | ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက် |

မြေပုံညွှန်း 1097 -16 UTM

A - 898114
B - 900114
C - 900110
D - 902110

စုစုပေါင်းဧရိယာ = ၁၅ ဧက

မြေတိုင်း(၅)

ကော့သောင်းမြို့

## ဇာဒက်ကြီးကျေးရွာအုပ်စု ငထွေးရူကျွန်းတွင် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက်

## SUPREME SERVICES TEAM Hotel Company , Limited မှ

## လျှောက်ထားသည့်တည်နေရာပြမြေပုံ







ကွင်းအမှတ်၊ ၂၅ / OSS
ဇာဒက်ကြီးကြေးတိုင်မြပ်ကွင်း
ဇာဒက်ကြီးကျေးရွာအုပ်စု
ကော့သောင်းမြို့နယ်

ရည်ညွှန်းချက်

| | |
|---|---|
| လျှောက်ထားသူအမည် | SUPREME SERVICES TEAM Hotel Company ,Ltd |
| လျှောက်ထားသည့်ဧရိယာ | ၁၅ဧက |
| လျှောက်ထားသည့်မြေအမျိုးအစား | တောရိုင်းမြေ |
| လုပ်ငန်းအမျိုးအစား | ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းလုပ်ကိုင်ရန်အတွက် |

မြေပုံညွှန်း 1097 -16 UTM

A - 898114
B - 900114
C - 900110
D - 902110

စုစုပေါင်းဧရိယာ = ၁၅ဧက

( ကောင်းထက်မိုး )
မြေတိုင်း(၅)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

လက်ထောက်ဦးစီးမှူး
တိုက်နယ်အမှတ်( ၂ )
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

အောင်ကျော်မိုး
မြို့နယ်ဦးစီးမှူး
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကော့သောင်းမြို့

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်.....................
ရက်စွဲ.....................
ထားဝယ်မြို့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၅၇၃၃ /၈၃၉ /၈-၃၉/အဖရ(တနင်္သာရီ)
ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ မတ်လ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co.,Ltd တို့အကြား ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)များကို စိစစ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ (၁၉.၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၂(၅) ၄ -၁၈ / နပတ (၁၈၄)

(၂) Supreme Services Team Hotel Co.,Ltd၊ ရန်ကုန်မြို့၏ (၇.၃.၂၀၁၆)ရက်စွဲပါတင်ပြစာ

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရှူးကျွန်း၊ မြေဧရိယာ(၇၀)ဧကတွင် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်နှင့်ကျွန်းမြေ(၂၃၀)ဧကအား သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ပေးနိုင်သော လေကာဒေသအဖြစ်အသုံးပြုခြင်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန်အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co.,Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ဥပဒေအကြံပြုချက်များနှင့်အညီ ပြင်ဆင်ရေးဆွဲထားရှိပြီးဖြစ်ပါသည်။

၂။ ထိုတနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co.,Ltd တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များအား (၁၀.၃.၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)သို့ တင်ပြခဲ့ရာ

ဆုံးဖြတ်ချက်အပိုဒ်(၄၇)အရ "ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပြီးဖြစ်သဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရွှေးကျွန်းပေါ်တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုပါရန် Supreme Services Team Hotel Co.,Ltd၏ အဆိုပြုလွှာနှင့်အတူ မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များအား ပူးတွဲပေးပို့ပါကြောင်းနှင့် ငှားရမ်းဆောင်ရွက်လိုသည့်မြေနှင့်စပ်လျဉ်းသည့်မြေအသုံးချခွင့်ရရှိပါက ထပ်မံပေးပို့သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ပူးတွဲပါ - တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) } (၃) အုပ်စီ
မြေငှားရမ်းခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)
Supreme Services Team Hotel Co.,Ltd၏ အဆိုပြုလွှာ (၁) အုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုလွှာ (၁)စောင်

ဝန်ကြီးချုပ်(ကိုယ်စား)
( ခိုင်ထွန်းဦး၊ အတွင်းရေးမှူး )

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
Supreme Services Team Hotel Co.,Ltd ၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၄ - ၁၈ / နပတ( ၁၈၄ )

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ဖေဖော်ဝါရီလ ၁၉ ရက်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) တို့အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၈-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ဖ/ ၈၃၉/ ၈-၃၉/ အဖရ (တနင်္သာရီ)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငထွေးရှုးကျွန်း မြေဧရိယာ(၇၀)ဧကတွင် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်နှင့် ကျွန်းမြေ (၂၃၀)ဧကအား သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ပေးနိုင်သော လေကာဒေသအဖြစ် အသုံးပြုခြင်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ကိုင်ဆောင်ရွက်ရန်အတွက်တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Team Hotel Co., Ltd တို့ ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)နှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်၌ Supreme Services Team Hotel Co.,

Ltd အား အငှားချထားခြင်းခံရသူဟု ခေါ်တွင်မည်ဟု ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ၌ လုပ်ကိုင်ခွင့်ရသူဟုလည်းကောင်း၊ အငှားချထားခြင်းခံရသူဟုလည်းကောင်း အမျိုးမျိုးသုံးနှုန်းဖော်ပြထားရာ အသုံးအနှုန်းတစ်ညီတစ်ညွတ်တည်းဖြစ်စေရေးအတွက် ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၂.၁ တွင် သဘောတူစာချုပ်၏ အဓိပ္ပါယ်ဖွင့်ဆိုချက် ၌ "မြေပုံကို နောက်ဆက်တွဲဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်" ဟုဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း)၌ တည်နေရာပြမြေပုံကြမ်း၊ ဟိုတယ်မြေနေရာ နှင့် ကာကွယ်ထိန်းသိမ်းသည့်မြေနေရာပြမြေပုံ၊ အဆိုပြုပုံစံတို့ ပူးတွဲထားသော်လည်း နောက်ဆက်တွဲ (က)(ခ)စသည်ဖြင့် အမှတ်စဉ်များတပ်၍ ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။ မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနက တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၂.၁ ၌ ဖော်ပြထားသော လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်သွားမည့်မြေ၏ တည်နေရာ၊ အကျယ်အဝန်းတို့နှင့် စပ်လျဉ်း၍ အငှားချထားမည့်မြေဟူသော ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၂.၁၊ အပိုဒ်ခွဲ ၅.၁၊ အပိုဒ်ခွဲ ၆.၁ နှင့် အပိုဒ်ခွဲ ၈.၁ တို့၌ မြေဧရိယာဧက (၃၀၀)ဧကဟု ဖော်ပြချက်အရ မြေဧရိယာ (၃၀၀)ဧကခန့်ရှိ ငွေးရှူးကျွန်း တစ်ကျွန်းလုံးအား လုပ်ကိုင်ခွင့်ရရှိသူ (ကုမ္ပဏီ)သို့ နှစ်ရှည်(နှစ် ၅၀) ငှားရမ်းအသုံးပြုခွင့်ပေးမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ယင်းသို့ ကျွန်းတစ်ကျွန်းလုံးအား ကုမ္ပဏီသို့ နှစ်ရှည်ငှားရမ်းခြင်းသည် ကျွန်းတစ်ကျွန်းလုံး၏ စီမံခန့်ခွဲမှု၊ အုပ်ချုပ်မှုသည် ကုမ္ပဏီတစ်ခု၏ လက်အောက်

သို့ နှစ်ရှည်ရောက်ရှိသွားသည့်သဘောသက်ရောက်နေပါသည်။ သို့ပါ၍ ဖော်ပြပါ ကျွန်းတစ်ကျွန်းလုံးအား ကုမ္ပဏီသို့ ငှားရမ်းခြင်းအား ပြန်လည်စိစစ်သင့်သည်ဟု သဘောရရှိပါသည်၊

✓(င) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၂.၃ ၌ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့်နေ့ဆိုသည်မှာ အပန်းဖြေစခန်းနှင့် အဆောက်အဦများ ဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်သည့်နေ့ကိုဆိုသည်ဟု အဓိပ္ပါယ်ဖွင့်ဆိုထားပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၉.၁ ၌ တည်ဆောက်ရေးကာလကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆)လအတွင်း အပန်းဖြေစခန်း တည်ဆောက်ရေးလုပ်ငန်းများကို သတ်မှတ်နယ်မြေတွင် အပြီးဆောက်လုပ်သွားရမည်ဟု ဖော်ပြထားပါသည်။ အပိုဒ်ခွဲ ၉.၁ တည်ဆောက်ရေးကာလပြီးစီးပြီးနောက် လုပ်ငန်းများ စတင်လည်ပတ်ပြီး ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်မည်ဖြစ်ကြောင်း သို့မဟုတ် အပိုဒ်ခွဲ ၉.၁ အရ တည်ဆောက်ရေးကာလပြီးစီးပြီးနောက် ရက်ပေါင်းမည်မျှအတွင်း ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်မည်ဖြစ်ကြောင်း ရှင်းလင်းဖော်ပြထားမှုမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့၏ အဓိပ္ပါယ်ဖွင့်ဆိုချက်အား ပြန်လည်စိစစ်ပြီး ရှေ့နောက်အသုံးအနှုန်းညီညွတ်စွာဖြင့် ရှင်းလင်းတိကျစွာ ဖော်ပြရန်လိုအပ်ပါသည်၊

✓(စ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၃.၁ ၌ လုပ်ကိုင်ခွင့်ရသူမှ ကျခံသုံးစွဲမည့် ရင်းနှီးမြှုပ်နှံမှုပမာဏသည် မည်မျှဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြသင့်ပါသည်၊

✓(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၄ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း၊ အပိုဒ်ခွဲ ၄.၁ ၌ လုပ်ကိုင်ခွင့်ပြုသူသည် ကျွန်းမြေ (၃၀၀)ဧကကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်သည်ဟုသာ ဖော်ပြထားရာ စည်းကမ်းချက်

ပြည့်စုံမှုမရှိကြောင်း တွေ့ရှိပါသည်။ စာချုပ်(မူကြမ်း)ပါ Supreme Services Team Hotel Co., Ltd သည် စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်းနှင့် ဤစာချုပ်ကို လက်မှတ်ရေးထိုးမည့်သူများသည် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးအာမခံကြပါသည်ဆိုသောအချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

✓(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၅ မြေငှားရမ်းကာလသတ်မှတ်ခြင်း၊ အပိုဒ်ခွဲ ၅.၁ ၌ မြေငှားရမ်းကာလ၌ မြေ (၃၀၀)ကေကို နှစ်ရှည်ငှားရမ်း၍ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့် အညီ သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ရန် သဘောတူသည်ဆိုသောအချက်အား ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ် ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်။ သို့ပါ၍ ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

✓(ဈ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၅.၁ ၌ မြေငှားရမ်းကာလကိုသာ ဖော်ပြထားပြီး ငှားရမ်းကာလတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ ဖော်ပြထားခြင်းမရှိ၍ ဖော်ပြသင့်ပါသည်။ ငှားရမ်းကာလတိုးမြှင့်ခြင်းသည် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် ကိုက်ညီရန်နှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းကဲ့သို့ ဖော်ပြရန်လိုအပ်ပါသည်၊

✓(ည) စာချုပ်(မူကြမ်း) အပိုဒ် ၆ စာချုပ်သက်တမ်းသတ်မှတ်ခြင်း၊ အပိုဒ်ခွဲ ၆.၁ ၌ ငှားရမ်းအသုံးပြုခွင့်သည့် ကာလနှင့်စာချုပ်သက်တမ်းအား ရောထွေးစွာဖော်ပြထားပါသည်။ ထို့အပြင် စာချုပ်သက်တမ်း နှစ်ပေါင်း(၅၀)သည် မည်သည့်နေ့မှစ၍ ကနဦးနှစ်(၅၀)ဖြစ်ကြောင်း ဖော်ပြမထားကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်သက်တမ်းသည် မည်သည့်နေ့မှစ၍ ကနဦးနှစ်(၅၀)ဖြစ်ကြောင်း ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါ သည်၊

(ဠ) စာချုပ်(မူကြမ်း) အပိုဒ် ၇ ၌ စာချုပ်သက်တမ်းတိုးခြင်းဟု ဖော်ပြထားသော်လည်း အဆိုပါ ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ ၇.၁ နှင့် ၇.၂ ၌ ငှားရမ်းကာလတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ ဖော်ပြထားရာ စာပိုဒ်ခေါင်းစဉ်နှင့် စည်းကမ်းချက်တို့ ကိုက်ညီမှုမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ ကိုက်ညီမှုရှိစေရန် မင်္ဂနီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၈ ၌ မြေအသုံးချမှုအာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်းတို့အား ရောထွေးစွာ ဖော်ပြထား၍ သီးခြားခေါင်းစဉ်များဖြင့် ဖော်ပြသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈.၁ တွင် ဖော်ပြထားသည့် မြေ (၃၀၀)ကေခန့်ရှိ တစ်ကွန်းလုံးအတွက် မြေအသုံးချမှုအာမခံကြေး ကျပ်သိန်းကိုးဆယ်တိတိ (၉၀၀,၀၀,၀၀ ကျပ်)သည် စာချုပ်ပါလုပ်ငန်းအတွက် သင့်လျော်သည့်ပမာဏဖြစ် မဖြစ် ဌာနမှစိစစ်သင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈.၂ တွင် တစ်ကွန်းလုံးမြေဧရိယာ (၃၀၀)ကေ အသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခကို အသုံးပြုနိုင်သော မြေ(၇၀)ကေ အတွက် တစ်ကေလျှင် ကျပ် (၁) သိန်းနှုန်းဖြင့် ငွေကျပ်သိန်း(၇၀)၊ လေကာဒေသအဖြစ် အသုံးပြုသောမြေ (၂၃၀)ကေအတွက်တစ်ကေလျှင် (၅၀၀၀/-) နှုန်းဖြင့် ကျပ် (၁,၁၅၀,၀၀၀/-) ပေးသွင်းရမည်ဟု ဖော်ပြထားရာ အဆိုပါ နှစ်စဉ် မြေငှားရမ်းခသည် စာချုပ်ပါ မြေကေများအတွက်သင့်လျော်သည့် ငှားရမ်းခဖြစ် မဖြစ် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈.၄ ၌ မြေငှားရမ်းခပေးသွင်းရာ၌ နောက်ကျပေးသွင်းမှုကို (၂)လထက် ကျော်လွန်ခြင်းမရှိစေရဟု ဖော်ပြထားရာ (၂)လထက်

ကျော်လွန်ပါက ဌာနအနေဖြင့် မည်ကဲ့သို့ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

✓(တ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈.၆ ၌ မြေငှားရမ်းခ ပြင်ဆင်သတ်မှတ်ခြင်းနှင့် စပ်လျဉ်း၍ ဖော်ပြထားရာ အပိုဒ်ခွဲ ၈.၆(က)၌ အပိုဒ် ၈.၅ ပါကာလမှစ၍ (၅)နှစ်ကာလအထိကို မူလသတ်မှတ်နှုန်းထားအတိုင်း ပေးသွင်းရမည်ဟု ဖော်ပြထားပါသည်။ အပိုဒ်ခွဲ ၈.၅ ၌ "--------- နှစ်စဉ်ငှားရမ်းခကို အဆိုပါ တည်ဆောက်ရေးကာလပြီးဆုံးသည့်နေ့မှစ၍ ပေးချေရမည်" ဟုဖော်ပြထားပါသည်။ သို့သော် အပိုဒ်ခွဲ ၈.၆(ခ)၌ စာချုပ်သက်တမ်း(၆)နှစ်ပြည့်နေ့မှစ၍ (၁၅)နှစ်ပြည့်သည်အထိဟုလည်းကောင်း၊ အပိုဒ်ခွဲ ၈.၆(ဂ)၌ စာချုပ်သက်တမ်း (၁၆)နှစ်ပြည့်နေ့မှစ၍ (၂၅)နှစ်ပြည့်သည့်အထိဟုလည်းကောင်း၊ အပိုဒ်ခွဲ ၈-၆ (ဃ)(င)(စ)တို့၌လည်း စာချုပ်သက်တမ်းများဖြင့် တွက်ချက်ဖော်ပြထားရာ စည်းကမ်းချက်ချင်းကိုက်ညီမှုမရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

✓(ထ) စာချုပ်(မူကြမ်း) မြေငှားရမ်းခ ပြင်ဆင်သတ်မှတ်ခြင်းနှင့်စပ်လျဉ်း၍ အပိုဒ်ခွဲ ၈.၆(ခ) ၌ ဤစာချုပ်သက်တမ်း (၆)နှစ်ပြည့်သည့်နေ့မှစ၍ (၁၅)နှစ်ပြည့်သည်အထိဟုလည်းကောင်း၊ အပိုဒ်ခွဲ ၈.၆(ဂ)၌ ဤစာချုပ်သက်တမ်း (၁၆)နှစ်ပြည့်နေ့မှစ၍ (၂၅)နှစ်ပြည့်သည့်အထိဟုလည်းကောင်း ဖော်ပြထားပါသည်။ အပိုဒ်ခွဲ ၈.၆(ခ)၌ စာချုပ်သက်တမ်းအား (၁၅)နှစ်ပြည့်အထိသတ်မှတ်ဖော်ပြပြီး အပိုဒ်ခွဲ ၈.၆(ဂ)၌ စာချုပ်သက်တမ်းအား (၁၅)နှစ်ပြည့်သည့်နေ့မှ မစတော့ဘဲ (၁၆)နှစ်ပြည့်နေ့မှစ၍ဟု ဖော်ပြထားရာ အချိန်ကာလကွာဟနေကြောင်း တွေ့ရှိရပါသည်။ အပိုဒ်ခွဲ ၈.၆(ဃ)(င)နှင့် (စ)တို့၌လည်း ထိုသို့ ဖော်ပြထားရာ အချိန်ကာလကွာဟနေ၍ ဌာနအနေဖြင့် ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

✓ (ဒ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈.၇ ၌ "လုပ်ကိုင်ခွင့်ပြုသူသည် နှစ်စဉ်မြေငှားရမ်းခ တိုးမြှင့်ကောက်ခံမည့်အချိန်တွင် --------- အတိအကျတွက်ချက်၍ လုပ်ကိုင်ခွင့်ပြုသူထံသို့စာဖြင့် ရေးသားအကြောင်းကြားရမည်။" ဟူသောဖော်ပြချက်မှာ ရှင်းလင်းမှုမရှိပါ။ မည်သူကမည်သူထံသို့ ရက်ပေါင်းမည်မျှကြိုတင် အကြောင်းကြားရမည်ဖြစ်ကြောင်း ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

✓(ဓ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ လုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ၊ အပိုဒ်ခွဲ ၁၁.၅ ၌ "လုပ်ကိုင်ခွင့်ရရှိသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို ဆောင်ရွက်ရာတွင် တစ်ဆင့်ငှားရမ်းခြင်း၊ အခြားသောပုဂ္ဂိုလ်/ အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်စေခြင်းမပြုရ" ဟုဖော်ပြထားပါသည်။ လုပ်ငန်းအပြင် ငှားရမ်းထားသည့်မြေအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ တစ်ဆင့်လွှဲပြောင်းခြင်း မပြုရဟူသောအချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

✓ (န) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၁.၆ ၌ ဖော်ပြထားသော ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်းကိစ္စများနှင့် စပ်လျဉ်း၍ လုပ်ကိုင်ခွင့်ပြုသူ(ဌာန)၏ ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ရန်သင့် မသင့် စဉ်းစားသင့်ပါသည်။ ထို့ပြင် အဆိုပါကိစ္စရပ်များနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်၊

✓(ပ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၂.၄ ၌ "မြန်မာနိုင်ငံစာရင်းစစ်ဥပဒေများနှင့်အညီ" ဟုဖော်ပြထားပါသည်။ မြန်မာနိုင်ငံစာရင်းကောင်စီဥပဒေ၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ဥပဒေဟူ၍သာရှိသဖြင့် မြန်မာနိုင်ငံစာရင်းစစ် ဥပဒေများနှင့်အညီ ဟူသောဖော်ပြချက်အား ပြန်လည်စိစစ်သင့်ပါသည်၊

✓(ဖ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄ အငြင်းပွားမှုဖြေရှင်းခြင်း၊ အပိုဒ်ခွဲ ၁၄.၂ ၌ တည်ဆဲဥပဒေနှင့်အညီ ဖြေရှင်းခြင်း သို့မဟုတ် ၂၀၁၆ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ ဖြေရှင်းဆောင်ရွက်အဆုံးအဖြတ်ကိုခံယူရမည်ဟု နည်းလမ်း ၂ မျိုးဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့ နည်းလမ်း ၂ မျိုးဖော်ပြခြင်းသည် စာချုပ်ဝင်များအကြား မလိုလားအပ်သော အငြင်းပွားမှုဖြစ်ပေါ်လာနိုင်သဖြင့် နည်းလမ်းတစ်မျိုးတည်းကိုသာ ရွေးချယ်သတ်မှတ်ဖော်ပြရန် လိုအပ်ပါသည်။ တည်ဆဲဥပဒေနှင့်အညီ ဖြေရှင်းမည်ဆိုပါက အောက်ပါအတိုင်း ဖော်ပြသင့်ပါသည် -

"ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာ ပါ က စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ငြိမ်းချမ်းစွာဖြေရှင်းရမည်။အငြင်းပွားမှုအား ငြိမ်းချမ်းစွာဖြေရှင်း၍မရပါက ဥပဒေနှင့်အညီစီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။"

✓(ဗ) စာချုပ်(မူကြမ်း)၌ အငှားချထားသည့် မြေ၏မြေခွန်ကို မည်သူက ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်၊

✓(ဘ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၆.၁ ၌ စာချုပ်ပြင်ဆင်ခြင်းနှင့် စပ်လျဉ်း၍ ပြင်ဆင်ချက်ကို ရေးသားဖော်ပြ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြရမည်ဟု ဖော်ပြထားပါသည်။ အဆိုပါဖော်ပြချက်အစား "ယင်းပြင်ဆင်ချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်" ဟူ၍ဖော်ပြရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

✓(မ) စာချုပ်(မူကြမ်း) အပိုဒ် ၁၇ ရပ်စဲခြင်း၊ အပိုဒ်ခွဲ ၁၇.၁(စ)၌ "ဤ BOT စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်း

စာချုပ်နှင့်ဆက်စပ်သည့် စာချုပ်တစ်ခုအဖြစ် မှတ်ယူသည့်အလျှောက် အဆိုပါ စာချုပ်ရပ်စဲပါက ဤစာချုပ်မှာလည်း အလိုအလျှောက်ရပ်စဲသည်" ဟူ၍ ခြေဂှားစာချုပ်နှင့် ချိတ်ဆက်ပြီး ဖော်ပြထားပါသည်။ ဌာနအနေဖြင့် သတိပြု သင့်ပါသည်၊

(ယ) စာချုပ်(မူကြမ်း)အပိုဒ်ခွဲ ၁၇.၁(င)တွင် လုပ်ကိုင်ခွင့်ရသူသည် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆၅)ရက်အတွင်း စတင်လုပ်ကိုင်မှုမရှိခြင်းဟု ဖော်ပြထားပါသည်။ ယင်းကာလ ၁ နှစ် သည် ကြာမြင့်လွန်းသည်ဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ရ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၇.၂ တွင် ဤစာချုပ်ရပ်စဲပြီးသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြရမည်ဟု ဖော်ပြထားပါသည်။ ၎င်းဖော်ပြချက်အစား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာ စာချုပ်ရပ်စဲခြင်း အတည်ဖြစ်စေရမည်ဟူ၍ ဖော်ပြရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(လ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၈.၂ ၌ ပစ္စည်းများအားလုံးကို လုပ်ကိုင်ခွင့်ပြုသူထံသို့ ပြန်လည်လွှဲပြောင်းပေးအပ်ရာ၌ စာချုပ်သက်တမ်းကုန်ဆုံးပြီး သို့မဟုတ် စာချုပ်ရပ်စဲပြီး ရက်ပေါင်းမည်မျှအတွင်း လွှဲပြောင်းပေးအပ်ရမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(ဝ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၂၁.၄ ၌ ဖော်ပြထားသော လူမှုဘဝထိခိုက်မှုဆန်းစစ်လေ့လာချက်ဆောင်ရွက်မှု စီမံချက် (ESIA)ကို မည်သည့်အချိန်ကာလ၌ မည်သူ့ထံတင်ပြမည်ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြသင့်ပါသည်၊

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

(ဒေါက်တာသီတာဦး၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
## ထားဝယ်မြို့

စာအမှတ်၊ ၆၃၀၈ /၅၀၀(၃)/၄-၁/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၂၀ ရက်

သို့

မန်နေဂျင်းဒါရိုက်တာ
Supreme Services Team Hotel Co., Ltd
ရန်ကုန်မြို့

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Supreme Services Hotel Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူ စာချုပ်(မူကြမ်း)များ တင်ပြလာသည့်ကိစ္စ**

ရည် ညွှန်း ချက်။ တိုင်းဒေသကြီးဥပဒေချုပ်ရုံး၊ ထားဝယ်မြို့၏ (၁၅.၆.၂၀၁၇)ရက်စွဲပါ စာအမှတ်၊ ဖ (၄)/ ၁/ ၁၈/ (၈၀၃)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငွေရှူးကျွန်းရှိ မြေဧရိယာ(၃၀၀)ကေပေါ်တွင် Supreme Services Hotel Co., Ltd မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားရာတွင် အသုံးပြုမြေဧရိယာ(၇၀)ကေ၊ အကာအကွယ်တော မြေဧရိယာ(၂၃၀)ကေ၊ စုစုပေါင်းမြေဧရိယာ(၃၀၀)ကေ လျှောက်ထားတင်ပြထားရှိသော်လည်း အသုံးပြုမြေအဖြစ် လျှောက်ထားသော မြေဧရိယာ(၇၀)ကေအစား ကမ်းခြေနှင့်ဆက်စပ်သည့် မြေဧရိယာ(၃၀)ကေအနက် မြေဧရိယာ(၁၅)ကေပေါ်တွင်သာ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့်စပ်လျဉ်း၍ (၁၀.၄.၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ်(၂၇)အရ **“ ကန့်ကွက်ရန်မရှိပါကြောင်း ”** ဆုံးဖြတ်ထားရှိပါသည်။

၂။ သို့ဖြစ်ပါ၍ Supreme Services Hotel Co., Ltd မှ မြေဧရိယာလျော့၍ တင်ပြထားရှိမှုနှင့်ပတ်သက်ပြီး မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)များအား ရေးဆွဲတင်ပြလာမှုအပေါ်

တိုင်းဒေသကြီးဥပဒေချုပ်ထံ ဥပဒေအကြံပြုချက်များ တောင်းခံခဲ့ရာ တိုင်းဒေသကြီးဥပဒေချုပ်၏ အကြံပြုချက်နှင့် ပြင်ဆင်ချက်များအတိုင်း ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

**ပူးတွဲပါ-** တိုင်းဒေသကြီးဥပဒေချုပ်မှ လက်ရေးမူ(မှင်နီ)ဖြင့် ပြင်ဆင်ထားသည့် - (၂)အုပ်
တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်
(မူကြမ်း)နှင့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)မိတ္တူ

ကောင်းစံဦး
(အတွင်းရေးမှူး)

မိတ္တူကို
လက်ခံစာတွဲ
မျှောစာတွဲ

# တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

# SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား ချုပ်ဆိုသော

တည်ဆောက်၊လုပ်ကိုင် နှင့်လွှဲပြောင်းခြင်းဆိုင်ရာ

( B .O.T ) သဘောတူစာချုပ် ( မူကြမ်း )

ရက်စွဲ ။ ၂၀၁၇ ခုနှစ် ၊ လ (   ) ရက်

# မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်
Lease Agreement

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား

ချုပ်ဆိုသောတည်ဆောက်၊လုပ်ကိုင် နှင့်လွှဲပြောင်းခြင်းဆိုင်ရာ( B .O.T )
သဘောတူစာချုပ် ( မူကြမ်း )

မာတိကာ

# မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်

Lease Agreement

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

နှင့်

SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား

ချုပ်ဆိုသောတည်ဆောက်၊လုပ်ကိုင် နှင့် လွှဲပြောင်းခြင်းဆိုင်ရာ( B .O.T )

**သဘောတူစာချုပ် ( မူကြမ်း )**

**ကျွန်းမြေနေရာ ( ၁၅ ) ဧက**

ဤတည်ဆောက်၊ လုပ်ကိုင်နှင့် လွှဲပြောင်းဆိုင်ရာစာချုပ်ကို ၂၀၁၇ခုနှစ် ၊ ............ လ( ) ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့တွင် ဦးကောင်းစံဦး အသွင်းရေးမှူး ၊ ကိုယ်စားပြု သောတနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့ ၊ (နောင်တွင် "လုပ်ကိုင်ခွင့်ပြု" သူဟု ခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံ မှုများ ... ခြင်းခံရသူများ နှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်ပါသည်။)

ကတစ်ဖက်

ဒေါ်မာမာခင်၊ နိုင်ငံသားစိစစ်ရေးအမှတ် ၊ ၁၂/အစန(နိုင် )၁၂၂၂၁၆၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စား ပြုသောရန်ကုန်တိုင်းဒေသကြီး၊မင်္ဂလာတောင်ညွန့်မြို့နယ်၊ အောင်ဆန်းကွင်း၊ မြောက်ဘက်ကန်း အခန်းအမှတ်(S-5) ၊ ဒုတိယအထပ်၊City Mart အပေါ်ထပ်တွင်ဖွင့် လှစ်ထားသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ၏တည်ဆဲ ဥပဒေများနှင့် အညီ တည်ထောင်ထားသည့် အစုရှယ်ယာ ရှင်များနှင့် ... သတ်ထား ရှိသော ပုဂ္ဂလိကကုမ္ပဏီဖြစ်သည့် မြန်မာနိုင်ငံသားပိုင် SUPREME SERVICES TEAM HOTEL Co.,Ltd (နောင်တွင် လုပ်ကိုင်ခွင့်ရသူဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ တရားဝင် ကိုယ်စားလှယ်များ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်ပါသည်။)

ကတစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး ကော့သောင်းခရိုင် ၊ ကော့သောင်းမြို့နယ်၊ ငွေထွေးရှုးကျွန်းမြေ၊ မြေပုံအညွှန်း (A-898114, B-900114, C-900110, D-902110) မြေဧရိယာ( ၁၅) ဧက တွင် ဟိုတယ်နှင့် ခရီးသွားလာရေး နှင့် လုပ်ကိုင်ခြင်းကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် လုပ်ကိုင် ဆောင်ရွက်ရန်တည်ဆောက်၊ လုပ်ကိုင်လွှဲပြောင်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

ဤသဘောတူစာချုပ်တွင် [illegible] "စာချုပ်ဝင်" [illegible] ရည်ရွယ်ချက် [illegible] "စာချုပ်ဝင်များ" [illegible]

၁.၁ မြန်မာ့ပင်လယ်ပြင်သဘာဝအရင်းအမြစ်များနှင့် ကျွန်းများ၏ဂေဟစနစ်များကိုသွားရောက် ကြည့်ရှုလေ့လာနိုင်ရန်၊ ဒေသတွင်းကမ္ဘာလှည့်ခရီးသွားလုပ်ငန်းများဖွံ့ဖြိုးတိုးတက်လာစေရန်၊ ၎င်းနှင့် ဆက်စပ်သောလုပ်ငန်းများတည်ဆောက်လုပ်ကိုင်သွားရန်၊ ဒေသခံပြည်သူများအတွက်အလုပ်အကိုင် အခွင့်အလမ်းများပေါ်ပေါက်လာပြီးဝင်ငွေပိုမိုတိုးတက်ရရှိစေရန်နှင့်နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စည်ပင်စေရန်ရည်ရွယ်ပါသည်။

၂။ အဓိပ္ပာယ်ဖွင့်ဆိုချက်များ

၂.၁။ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာတနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းခရိုင်၊ကော့သောင်းမြို့နယ်၊ ငွေထွေးရှုး ကျွန်းမြေနေရာအကျယ်အဝန်းဧက-( ၁၅ )ဧက ရှိမြေပုံအညွှန်း (A-898114, B-900114, C-900110, D-902110) ရှိမြေနေရာပေါ်တွင်ဟိုတယ်နှင့် [illegible] ခရီးသွားလုပ်ငန်းများအကောင်အထည်ဖော် [illegible] ဆောင်ရွက်သွားမည့် ~~မြေငှားရမ်းခြင်း~~ [illegible] ဆိုင်ရာဤသဘောတူစာချုပ်ကိုဆိုလိုသည်။ [illegible] (မြေပုံကိုနောက်ဆက်တွဲဖြင့် ဤစာချုပ်တွင်ပူးတွဲထားပါသည်။)

၂.၂။ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ် ဆိုသည်မှာ နှစ်တစ်နှစ်၏ဧပြီလ (၁)ရက် နေ့ မှ နောင် နှစ် မတ်လ(၃၁)ရက် နေ့အထိ(၁၂)လ ကာလကိုဆိုလိုသည်။

၂.၃ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့

အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့ ဆိုသည်မှာဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့် အပန်းဖြေစခန်းနှင့် အဆောက်အဦးများဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများ စတင်လည်ပတ်ပြီး လုပ်ငန်းများ လက်ခံဆောင်ရွက်သည့် နေ့ကိုဆိုလိုသည်။

၂.၄။ အသုံးပြုနိုင်သောမြေ

အသုံးပြုနိုင်သောမြေဆိုသည်မှာအပန်းဖြေစခန်းနှင့် ဆက်စပ်လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ရန်သတ်မှတ်ထားသောမြေနေရာကိုဆိုလိုသည်။

၂.၅။ အရံထားရှိသည့်မြေ

အရံထားရှိသည့်မြေဆိုသည်မှာ လက်ရှိအခြေအနေတွင် မည့်သည့်လုပ်ငန်းကိုမျှ လုပ်ကိုင်ဆောင်ရွက်ခြင်း မပြုဘဲနောင်တစ်ချိန်တွင်အသုံးပြုလိုပါကအသုံးပြုနိုင်သောမြေအဖြစ် ပြောင်းလဲ ခွင့်ပြုချက်ရယူဆောင်ရွက်ရန်သတ်မှတ်ထားသောမြေကိုဆိုလိုသည်။

၂.၆။ ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက်မှု

ဟိုတယ်လုပ်ငန်း ဝင်ငွေ အခြေခံတွက်ချက်မှုဆိုသည်မှာဟိုတယ်အခန်းတစ်ခန်း၏ဘစ်ရက် ငှားရမ်းခနှုန်းကိုဟိုတယ်ရှိ အခန်းအရေအတွက်နှင့် မြှောက်၍ရရှိသောတနေ့ဝင်ငွေ ကို တစ်နှစ်စာတွက်ချက်ပြီး သင်းတနှစ် ဝင်ငွေ၏သုံးဆယ့်ငါးရာနိုင်နှုန်းပေါ်တွင် အခြေခံ၍တွက်ချက်ရယူသော နှုန်းထား ကိုဆိုလိုသည်။

၂.၇။ ရင်းနှီးမြှုပ်နှံမည့်ငွေကြေးပမာဏ

ရင်းနှီးမြှုပ်နှံမည့် ငွေကြေးပမာဏဆိုသည်မှာ ဤသဘောတူ စာချုပ်ပါ ကိစ္စရပ်များ ကိုဆောင်ရွက်ဖော်ရာတွင် သုံးစွဲရန်တွက်ချက်ထားသည့် စုစုပေါင်း ကုန်ကျမည့် ငွေကြေးပမာဏကိုဆိုလိုသည်။

၂.၈။ ထပ်မံဖြည့်ဆည်းမည့်အစိတ်အပိုင်းများ

ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများဆိုသည်မှာ ငှားရမ်း မြေပေါ်တွင် အပန်းဖြေစခန်းလုပ်ငန်း များ ဆောင်ရွက်ရာတွင်ပါဝင်သည့် ကနဦးဆောင်ရွက်သည့် အစိတ်အပိုင်းများ၊ ဆက်လက်ဆောင်ရွက်သွားမည့် လုပ်ငန်းများ၊ထပ်မံဖြည့်စွက်သည့် လုပ်ငန်းများအပါအဝင်၊ တည်ဆောက်ရေးလုပ်ငန်း များ အားလုံးကိုဆိုလိုသည်။

၃။ ရင်းနှီးမြှုပ်နှံမည့်ငွေကြေးပမာဏ

ဤသဘောတူစာချုပ်အရ ဆောင်ရွက်မည့်လုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မြန်မာ ငွေကျပ် သန်းပေါင်း နှစ်သောင်းငါးထောင်ကျပ် ဖြစ်ပါသည်။ ယင်းငွေကိုလုပ်ကိုင်ခွင့် ရသူမှ ကျခံသုံးစွဲရပါမည်။ လုပ်ငန်းလိုအပ်ချက်အရရင်းနှီးမြှုပ်နှံမှု ပမာဏ ပြောင်းလဲပြင်ဆင်ရန် လိုအပ်ပါက လုပ်ကိုင် ခွင့်ရသူနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ကြို တင်တင်ပြ၍ ခွင့်ပြုချက်ရယူ ဆောင် ရွက်ရမည်။

## ၄။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၄.၁။ လုပ်ကိုင်ခွင့်ပြုသူသည် တနင်္သာရီတိုင်းဒေသကြီးကော့သောင်းခရိုင်အတွင်းရှိ ယခု ဤသဘောတူစာချုပ်ကို ချုပ်ဆိုသော ထွေးရှူးကျွန်းမြေနေရာ( ၁၅ )ဧကကိုတရားဝင်စီမံ ခန့်ခွဲပိုင်ခွင့် ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်သည်။

၄.၂။ လုပ်ကိုင်ခွင့် ရသူသည် အထက်ဖော်ပြပါ အရပ် ဒေသတွင် အပန်းဖြေစခန်းလုပ်ဆောင်ရန်၊ အဆောက်အဦးများဆောက်လုပ်ရန်ငွေကြေးအင်အားပြည့်စုံသူဖြစ်ပြီးလုပ်ကိုင်နိုင်စွမ်းရှိသည့် အတတ်ပညာရှင်၊ အသိပညာရှင်များအပြည့်အဝရှိကြောင်းအာမခံသည်။

၄.၃။ နှစ်ဦးနှစ်ဖက်လုံးသည်ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးရန် ကိုယ်စားပြု အခွင့် အာဏာရှိကြောင်းအသီးသီးအာမခံကြပါသည်။

## ၅။ မြေငှားရမ်းကာလသတ်မှတ်ခြင်း ~~နှင့် မြေငှားရမ်းကာလသက်တမ်းတိုးခြင်း~~

၅.၁။ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်အပိုဒ် ၂.၁ ပါ မြေဧရိယာ စုစုပေါင်း(၁၅)ဧကကို လုပ်ကိုင်ခွင့်ရသူသို့နှစ်ရှည်ငှားရမ်း၍ ၎င်းမြေပေါ်[illegible] လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ရန်သဘောတူညီသည်။ ငှားရမ်းသည့် ကာလမှာဤသဘောတူစာချုပ် လက်မှတ်ရေးထိုး သည့်နေ့မှစ၍နှစ်ပေါင်း( ၅၀ )သတ်မှတ်သည်။

၅.၂။ လုပ်ကိုင်ခွင့်ရသူသည်ငှားရမ်းသည့် သက်တမ်းပြည့်သည့်အခါဆက်လက်ငှားရမ်းလုပ်ကိုင်လိုပါက နောက်ထပ်တစ်ကြိမ်ချင်း(၁၀) နှစ်စီဖြင့် ( ၂ )ကြိမ်ဆက်လက်ငှားရမ်းသုံးစွဲခွင့် ပြု ရန်တင်ပြဆောင်ရွက်ခွင့် ရှိသည်။

၅.၃။ လုပ်ကိုင်ခွင့်ရသူသည် သက်တမ်းပြည့်ပြီးနောက် ဆက်လက်ငှားရမ်းလုပ်ကိုင်လိုပါက [illegible] ( ၆ )လ ကြိုတင်၍ လုပ်ကိုင်ခွင့်ပြုသူထံ စာဖြင့် ရေးသားလျှောက်ထားရမည်။ လုပ်ကိုင်ခွင့် ပြုသူ၏ ဆုံးဖြတ်သည့် အတိုင်း လုပ်ကိုင်ခွင့် ရသူကလိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

## ၆။ စာချုပ်သက်တမ်းသတ်မှတ်ခြင်း

၆.၁။ လုပ်ကိုင်ခွင့်ပြုသူသည်လုပ်ကိုင်ခွင့်ရသူသို့ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ မြေဧရိယာ (၁၅)ဧကရှိပင်လယ်ကမ်းခြေမြေနေရာကိုနှစ်ပေါင်း(၅၀) ငှားရမ်းအသုံးပြုခွင့် ပြုသည်။ သို့ဖြစ်၍ဤစာချုပ်ကနဦးသက်တမ်းကို ( - - ၂၀၁၇ ) ရက်နေ့မှ ( - ၂၀၆၇ ) ရက်နေ့အထိ နှစ်ပေါင်း (၅၀) သတ်မှတ်သည်။

၇။ စာချုပ်သက်တမ်းတိုးခြင်း

၇.၁ လုပ်ကိုင်ခွင့် ရသူသည် ငှားရမ်းသည့် သက်တမ်းပြည့်သည့် အခါဆက်လက် ငှားရမ်းလုပ်ကိုင်လိုပါကနောက်ထပ်တစ်ကြိမ်လျှင် ( ၁၀ )နှစ်စီဖြင့် ( ၂ )ကြိမ်ဆက်လက် ငှားရမ်းသုံးစွဲခွင့်ပြုရန်တင်ပြဆောင်ရွက်ခွင့် ရှိသည်။

၇.၂ လုပ်ကိုင်ခွင့် ရသူသည် သက်တမ်းပြည့် ပြီးနောက် ဆက်လက်ငှားရမ်း လုပ်ကိုင်လိုပါကသက်တမ်း မစေ့ရောက်မီအနည်းဆုံး( ၆ ) လကြို တင်၍အငှားချ ထားသူထံစာဖြင့်ရေးသားလျှောက်ထားရမည်။ လုပ်ကိုင်ခွင့်ပြုသူကဆုံးဖြတ်သည့် အတိုင်းလုပ်ကိုင်ခွင့် ရသူကလိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

၈။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊မြေငှားရမ်းခပေးသွင်းခြင်း။

၈.၁ လုပ်ကိုင်ခွင့် ရရှိသူသည်ငွေးရှုးကျွန်းမြေဧရိယာ( ၁၅ )ဧကအတွက်မြေအသုံးချမှုအာမခံကြေးအဖြစ်အောက်ပါအတိုင်းခွဲခြားသတ်မှတ်ပြီး၊ ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင်လုပ်ကိုင်ခွင့် ပြုသူ၏ငွေစာရင်းခေါင်းစဉ်အမှတ် ( )ဖြင့် ဘဏ်သို့ပေးသွင်းရမည်။

(က) အသုံးပြုနိုင်သောမြေ

(၁၅) ဧက x ၁၀၀၀၀၀ = ကျပ် ၁၅၀၀၀၀၀

၈.၂ လုပ်ကိုင်ခွင့် ရသူသည် မြေအသုံးပြုခြင်း အတွက် နှစ်စဉ်မြေငှားရမ်းခ ကို အောက်ပါအတိုင်းတွက်ချက်ပေးသွင်း ရမည်။

(က) ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ

(အခန်း ၁၅ ခန်း (Sea View ) * USD 120 * 365 )၏ ၃၅ % = ၂၂၉၉၅၀ USD
(အခန်း ၁၅ ခန်း (Garden View ) * USD 80 * 365 )၏ ၃၅ % = ၁၅၃၃၀၀ USD
(အခန်း ၂၀ ခန်း (Mountain View ) * USD 60 * 365 )၏ ၃၅ % = ၁၅၃၃၀၀ USD

စုစုပေါင်း = ၅၃၆၅၅၀ USD

(ခ) အခြားဝင်ငွေ

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ၏ ၁၀ % = ၅၃၆၅၅ USD

(ဂ) ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ +အခြားဝင်ငွေ = ၅၉၀၂၀၅ USD

(ဃ) နှစ်စဉ်မြေငှားရမ်းခ = ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ၏ ၅ %

= ၅၉၀၂၀၅ USD ၏ ၅ %

= ၂၉၅၁၀ USD

၈.၃ လုပ်ကိုင်ခွင့် ရသူသည် နှစ်စဉ်မြေငှားရမ်းခကိုတစ်နှစ်လျှင် ( ၂ ) ကြိမ်အရစ်ကျပေးချေရမည်။ပထမဆုံးအရစ်ကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် ဟိုတယ်တရားဝင်ဖွင့် လှစ်သည့်နေ့မှစ၍ ပေးချေရမည်။ ပထမအရစ်ပေးချေသည့် ငွေမှာ ( USD ၁၅၀၀၀ ) ဖြစ်ပါသည်။ ဒုတိယအရစ်ကို ယင်း ဘဏ္ဍာရေး နှစ်၏ မတ်လ ( ၃၁ ) ရက် နေ့မတိုင်မီ ပေးချေရမည်။ ဒုတိယအရစ် ပေးချေရမည့်ငွေမှာ ( USD ၁၄၅၁၀ ) ( သို့မဟုတ် ) ဟိုတယ်လုပ်ငန်း ဝင်ငွေ အခြေခံ တွက်ချက်မှု၏ ၅ % သည် ပိုမိုများ နေပါက ယင်းငွေ အနက် ပထမအရစ်ကန်းဖိုးငွေ ထုတ်နှုတ်၍ ကျန်ငွေ ပမာဏကို ပေးသွင်းရမည်။

၈.၄ မြေငှားရမ်းခပေးသွင်းရာတွင်ငွေပေးသွင်းမှုနောက်ကျ ပါကအငှားချထားခြင်းခံရသူသည် နောက်ကျကြေး အဖြစ်တရက်လျှင် ငွေ ၅၀၀၀၀/-(ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် တွက်ချက်၍ထပ်မံပေးသွင်းရမည်။ သို့သော်နောက်ကျကြေးပေးသွင်းမှုကို(၂)လထက် ကျော်လွန်ခြင်းမရှိစေရ။ အကယ်၍ ကျော်လွန်ပါက လုပ်ကိုင်ခွင့် ရသူသည် ဤသဘောတူစာချုပ်အပိုဒ် ( ၁၉) ပါပြဋ္ဌာန်းချက် နှင့် အညီဆောင်ရွက်ရမည်။

၈.၅ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့်ရက်စွဲသည်တည်ဆောက်ရေး ကာလသတ်မှတ်ရက် ထက်မကျော်လွန်စေရ။ အကယ်၍ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့သည် တည်ဆောက်ရေး ကာလ သတ်မှတ်ရက်ထက်ကျော်လွန်ပါက နှစ်စဉ်ငှားရမ်းခ ကို အဆိုပါ တည် ဆောက်ရေး ကာလ နောက်ကျ သည့် နေ့မှစ၍ပေးချေရမည်။

၉။ တည်ဆောက်ရေးကာလသတ်မှတ်ခြင်း

၉.၁ ဤသဘောတူညီချက် လက်မှတ်ရေးထိုးသည့် နေ့မှစ၍( ၃၆ )လအတွင်းအခန်းဖြစ်စေ တည်ဆောက်ရေး လုပ်ငန်းများကို သတ်မှတ်နယ်မြေတွင်အပြီးဆောက်လုပ်သွားရမည်။

၉.၂ ဤသဘောတူညီချက်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကနဦးပတ်ဝန်းကျင်လေ့လာခြင်းကာလကို ( ၆ ) လတာကာလသတ်မှတ်သည်။တည်ဆောက်ရေးကာလကို ( ၃၀ )လသတ်မှတ် ၍အပြီး ဆောင်ရွက်ရမည်။

၉.၃ လုပ်ကိုင်ခွင့်ရသူသည်တည်ဆောက်ရေးကာလတွင်း ပြီးမြောက်အောင် ဆောင်ရွက်နိုင်ခြင်း မရှိပါက တည်ဆောက်ရေးကာလစေ့ ရောက်သည့် နေ့မှစ၍ ငှားရမ်းခကို စတင်ပေးချေသွားရမည်။

၁၀။ လုပ်ကိုင်ခွင့်ပြုသူ၏တာဝန်များ

၁၀.၁ လုပ်ကိုင်ခွင့်ပြုသူသည်ဤသဘောတူစာချုပ်တွင်ပါရှိသောစည်းကမ်းချက်များနှင့် အညီစတင် အကျိုးသက်ရောက်သည့် နေ့မှစ၍လုပ်ကိုင်ခွင့် ရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင်အနှောက် အယှက်မရှိ အေးချမ်းစွာလုပ်ကိုင်နိုင်ရန် ဆောင်ရွက်ပေးရမည်။

၁၀.၂ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူကပေးရန်ရှိသည့် မြေငှားရမ်းခများကိုသတ်မှတ်ကာလ အတွင်းမှန်ကန်စွာပေးသွင်းနိုင်ရန်ကြီးကြပ်ပေးရမည်။

၁၀.၃ လုပ်ကိုင်ခွင့်ပြုသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း မိမိကတာဝန်ပေးသည့် သေပုဂ္ဂိုလ် အဖွဲ့အစည်းအနေဖြင့်လည်းကောင်း လုပ်ကိုင်ခွင့်ရသူ၏လုပ်ငန်းဆောင်ရွက်မှုကို ကြိုတင် အသိပေးကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

၁၁။ လုပ်ကိုင်ခွင့်ရသူ၏တာဝန်များ

၁၁.၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် အညီမိမိ၏ လုပ်ငန်း များကိုအချိန်မီပြီးမြောက်အောင် ဆောင်ရွက်ရမည်။

၁၁.၂ လုပ်ကိုင်ခွင့်ရသူသည်သတ်မှတ်ထားသောမြေငှားရမ်းခနှင့်အခြားအခွန်အခများကို အချိန်မီမပျက် မကွက်ပေးသွင်းရမည်။ထို့အတူသတ်မှတ်ထားသည့်တံဆိပ်ခေါင်းကပ်ခြင်း၊စာချုပ်မှတ်ပုံတင်ခြင်းကို ... တစ်ပါ တည်းဆောင်ရွက်ရမည်။

၁၁.၃ လုပ်ကိုင်ခွင့် ရရှိသူသည် ဤသဘောတူစာချုပ် ပါလုပ်ငန်းမှအပအခြားသော လုပ်ငန်းတစ်ခု ကို ငှားရမ်းသည့် မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၁၁.၄ လုပ်ကိုင်ခွင့်ရရှိသူသည် ငှားရမ်းသည့် ကာလအတွင်းအဆောက်အဦးများ တိုးချဲ့ခြင်း နှင့် ပြောင်းလဲဆောင်ရွက်ရန်ကိစ္စဖြစ်ပေါ်လာပါကလုပ်ကိုင်ခွင့်ပြုသူထံသို့ စီမံချက်ရေးဆွဲ၍ မိမိလုပ်ကိုင်လိုသည့် ကာလမတိုင်မီ ( ၃ )လကြိုတင်တင်ပြအသိပေးသဘောတူညီ ချက်ရယူပြီးမှ ဆောင်ရွက်ရမည်။ နှစ်စဉ် မြေငှားရမ်းခမှာလည်းထိုသို့ လုပ်ငန်းတိုးချဲ့ပြုပြင်သည်နှင့် အမျှပြောင်းလဲပေးသွင်းရမည်။

၁၁.၅ လုပ်ကိုင်ခွင့်ရရှိသူသည် ဤသဘောတူစာချုပ် ပါလုပ်ငန်းများကိုဆောင်ရွက်ရာတွင် လုပ်ငန်းကို ခေါ်လည်းကောင်း၊ ငှားရမ်းမြေသော်လည်းကောင်းတဆင့်ငှားရမ်းခြင်း၊ အခြားသော လူပုဂ္ဂိုလ်/အဖွဲ့ အစည်း တစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်ခြင်းမပြုရ။ ( ဤစကားရပ်တွင်ဤကိစ္စအတွက်ချုပ်ဆိုသော မြေငှားရမ်းခြင်းဆိုင်ရာစာချုပ်လည်းအကျုံးဝင်သည်။ )

၁၁.၆ လုပ်ကိုင်ခွင့်ရရှိသူသည်ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်း ကိစ္စများကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ရမည်။

၁၁.၇ လုပ်ကိုင်ခွင့်ရရှိသူသည်မြေကိုငှားရမ်းသုံးစွဲနေစဉ်ကာလအတွင်းမြေမှအဖိုးတန်ရတနာပစ္စည်းများ ရှေးဟောင်းသုတေသနပြုနိုင်သည့် အဖိုးတန်သယံဇာတပစ္စည်းများတွေ့ရှိပါက မိမိလုပ်ငန်းကိုဆက်လက် လုပ်ကိုင်ခြင်း မပြုဘဲခေတ္တရပ်နားပြီးလုပ်ကိုင်ခွင့် ပြုသူထံချက်ချင်းအသိပေးရမည်။

၁၁.၈ လုပ်ကိုင်ခွင့်ရရှိသူသည်လုပ်ကိုင်ခွင့်ပြုသူက ကြိုတင်အသိပေးအကြောင်းကြား၍ လုပ်ငန်း ဆောင်ရွက်မှုများကိုလာရောက်ကြည့်ရှုစစ်ဆေးသည့်အခါစစ်ဆေးမှုကိုခံယူ၍ညွှန်ကြားသည့်အတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရမည်။

၁၂ လုပ်ငန်းလည်ပတ်ခြင်းနှင့်စီမံခန့်ခွဲခြင်း

၁၂.၁ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရရှိသူမှ အပန်းဖြေစခန်းတရားဝင်စတင်ဖွင့်လှစ်သည့် နေ့မှစ၍ အပန်းဖြေစခန်းလုပ်ကိုင်ခြင်းနှင့် စီမံခန့်ခွဲခြင်းလုပ်ငန်းများလုပ်ကိုင်သည်ကို သဘော တူပါသည်။

၁၂.၂ အပန်းဖြေစခန်းတရားဝင်စတင်ဖွင့်လှစ်သည့်နေ့သည်ဤ( B.O.T )စာချုပ်လက်မှတ်ရေး ထိုးသည့်နေ့မှစ၍ ( ၃၆ ) လထက် နောက်မကျစေရ။

၁၂.၃ လုပ်ကိုင်ခွင့်ရသူသည် အပန်းဖြေစခန်းများ တည်ဆောက်ရာတွင် အဆောက်အအုံ ပုံစံပြောင်းလဲခြင်း၊ ထပ်မံတိုးချဲ့ခြင်း စသည့် လုပ်ငန်းများလုပ်ကိုင်လိုပါက ထပ်မံဖြည့်စွက်သည့် အစိတ်အပိုင်းများ၊ ပစ္စည်းများကိုတွက်ချက်ဖော်ပြ၍ လုပ်ကိုင်ခွင့်ပြုသူနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်ရမည်။

၁၂.၄ လုပ်ကိုင်ခွင့်ရသူသည် ငွေကြေးသုံးစွဲမှု စာရင်းဇယားများကို အတွင်းစာရင်းစစ်ဆေးပြီးနိုင်ငံတကာ စံနှုန်းများနှင့်အညီ ပြည်ထောင်စုစာရင်းစစ်ချုပ် ဥပဒေနှင့် အညီ ပြုစုထားရှိ ရမည်။

၁၃။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၃.၁ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုရာတွင် မီးဘေး၊ ရေဘေး၊ လေဘေး၊ မိုးကြိုး ၊ မုန်တိုင်း ၊ အပူပြင်းခြင်း ၊ မြေငလျင် ၊ ရေလွှမ်းခြင်း ၊ ရောဂါဘယများဖြစ်ပွားခြင်း အစရှိသည့် သဘာဝဘေးအန္တရာယ်များကျရောက်ခြင်း၊နိုင်ငံတော် အစိုးရ၏ တားမြစ်ကန့်သတ်ခြင်း၊ ဆန္ဒပြခြင်း၊ ပြည်သူလူထု အရှုံး၏နှောက်ယှက်မှု ၊ စစ်ပွဲ ဖြစ်ပွားခြင်း၊ ပိတ်ဆို့ ဟန့်တားခံရခြင်း ၊ တော်လှန်ပုန်ကန်ခြင်း ၊ ရှန်းရင်းဆန့်ကျင်ဖြစ်ခြင်း ၊ လုပ်ငန်းဆောင်ရွက်၍ မရနိုင် လောက်သည့် ဒေသန္တရ ဆူပူအုံကြွမှုများ စသည်တို့ ပါဝင်ပြီးစာချုပ်ဝင် တစ်ဖက်ဖက် က လိုအပ်သောသတိဝီရိယ နှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကိုဆိုလိုသည်။

၁၃.၂ အပန်းဖြေစခန်းတည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ဆောင်ခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ စီမံရေးရာ ကိစ္စရပ်များဆောင်ရွက်ခြင်းသည် အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ဖြစ်ပွားခြင်းကြောင့် နှောင့်နှေးတားဆီးခံခဲ့ရခြင်းများ ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများ ဖြစ်ပေါ်သည့် ညီသဘောတူစာချုပ်ပါစည်းကမ်းချက်များအားအကောင်အထည် ဖော်မှုများကိုသက်ရောက် မှုရှိခဲ့ပါက အဆိုပါ ဖြစ်ပွားသည့် ကာလနှင့်တူညီသောကာလကို နှစ်ဖက် အပြန်အလှန် ညှိနှိုင်းဆုံးဖြတ်၍ သက်တမ်းတိုးမြှင့်ပေးရန် ဖြစ်သည်။ အငှားချထားခြင်းခံရသူသည် အငှားချထားသူထံသို့ နစ်နာ ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၁၃.၃ အဆိုပါ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဖြစ်ပွားသည်နှင့် စပ်လျဉ်း၍ မိမိတာဝန်ယူ ဆောင်ရွက်ရမှု လုပ်ငန်းအပေါ် အကျိုးသက်ရောက်မှုရှိလာခဲ့သည့်အဖွဲ့အစည်းသည် ဖြစ်ပွားသည့် နေ့ရက်မှ ( ၁၄ ) ရက်အတွင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ တစ်ဖက် စာချုပ်ဝင်က အတည်ပြုလျှင် ~~မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်ပေါ်သည့် နှစ်ဖက်အဖွဲ့ အစည်း~~ စာချုပ်ဝင်များ

မလွှဲမရှောင်နိုင်သော ဖြစ်ရပ် သက်ရောက်ခြင်းမှ သက်သာရာရစေရန် ကျိုးကြောင်းဆီလျော်စွာညှိနှိုင်း တိုင်ပင်၍ ဆောင်ရွက်သွားရမည်။

၁၄။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၄.၁ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့အကြား ဤသဘောတူစာချုပ် နှင့်စပ်လျဉ်း၍ တစ်စုံ တစ်ရာအငြင်းပွားမှု ဖြစ်ပေါ်လာပါကစာချုပ်ဝင် နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ဖြေရှင်း ရမည်။

၁၄.၂ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့သည် အထက်အပိုဒ် ( ၁၄.၁ ) ပါ အတိုင်း ငြိမ်းချမ်းသောနည်းလမ်းဖြင့် မဖြေရှင်းနိုင်ခဲ့ ပါကတည်ဆဲဥပဒေနှင့် အညီစီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။ အငြင်းပွားမှုဖြေရှင်းခြင်းနှင့် သက်ဆိုင်သောစရိတ်စကများကိုရှုံးနိမ့်သည့် တစ်ဖက်မှ ကျခံရမည်။

၁၄.၃ ခုံရုံးတည်နေရာကိုလုပ်ငန်းတည်နေရာဒေသဖြစ်သောတနင်္သာရီတိုင်းဒေသကြီး ထားဝယ်ခရိုင် ထားဝယ်မြို့ ဟု နှစ်ဦးသဘောတူသတ်မှတ်ပါသည်။

၁၄.၄ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့်ဘာသာစကားမှာ မြန်မာဘာသာစကား ဖြစ်သည်။

၁၅။ စာချုပ်အစိတ်အပိုင်းများ

၁၅.၁ ဤစာချုပ်နှင့်အတူပူးတွဲထားသောစာရွက်စာတမ်း၊ မြေပုံ ၊ စာရင်းဇယားတို့သည်

ဤစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရမည်။

၁၆။ စာချုပ်ပြင်ဆင်ခြင်း

၁၆.၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့် ရေးသား ဖော်ပြ ပြင်ဆင် နိုင်သည်။ ၁၆.၂ စာဖြင့်ရေးသားထားသော ပြင်ဆင်ချက်ကိုစာချုပ် ဝင်များကလက်မှတ် ရေးထိုးထားရမည်။ ၁၆.၃ ပြင်ဆင်ချက်သည် ဤသဘောတူစာချုပ်၏ အစိတ်အပိုင်း(ရ)ဖြစ် မှတ်ယူရမည်။

၁၆.၄ စာဖြင့် ရေးသားထားသောပြင်ဆင်ချက်ကို မြန်မာ နိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင် သို့ အသိ ~~ပေးရန် ဖြစ်ပါသည်။~~ ပေးရမည်။

အညိုင် ခွဲ ဖော်ပြသည်

၁၇။ စာချုပ်ရုပ်သိမ်းခြင်း

၁၇.၁ ဤသဘောတူစာချုပ်ကိုအောက်ဖော်ပြပါ အချက်များထဲမှ အကြောင်းအချက် တစ်ခု ဖြစ်ပေါ်လာပါကစာချုပ်ရုပ်သိမ်းနိုင်သည်။

( က ) စာချုပ်ဝင်များနှစ်ဖက် အပြန်အလှန် သဘောတူညီချက်ဖြင့် ရုပ်သိမ်းခြင်း၊

( ခ ) လုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကိုအကောင်အထည် ဖော်ဆောင်ရွက်နိုင်စွမ်းမရှိတော့ခြင်း၊

( ဂ ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ကြောင့် နစ်ဦးနစ်ဖက် ဘက်လိုက်မှုမရှိဘဲဆုံးဖြတ် ရပ်နားခဲ့သည့် ကာလသည် ( ၆ ) လ ကျော်လွန်သွားခြင်း၊

( င ) လုပ်ကိုင်ခွင့်ရသူသည် သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း ( ၃၆၅ ) ရက်အတွင်းတည်ဆောက်ရေးလုပ်ငန်းများကို လုံးဝစတင်နိုင်မှုမရှိခြင်း၊

(စ) ဤတည်ဆောက်၊လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ ( B.O.T )စာချုပ်သည်လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့နှင့် မြေငှားရမ်းခြင်း စာချုပ်မှအစိတ်အပိုင်းတစ်ခုအဖြစ် မှတ်ယူသည့် အလျောက် အဆိုပါ စာချုပ်ရုပ်သိမ်းပါကဤစာချုပ် မှာလည်းအလိုအလျောက်ရုပ်သိမ်းသည်။

၁၇.၂ ဤစာချုပ်ရုပ်သိမ်း ပြီးသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အသိပေး တင်ပြရမည်။

၁၈။ မြေနှင့် အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၈.၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ် သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခွင့်ရပါက တိုးမြှင့် သည့် သက်တမ်းကာလကုန်ဆုံးသည့် အခါ ( သို့မဟုတ် ) စာချုပ်ရုပ်သိမ်းသည့် အခါ ယင်းနေ့ ရက်ပေါင်း ( ၁၀ ) အတွင်းငှားရမ်းသည့်မြေကိုမူလလုပ်ကိုင် ခွင့်ပြုသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်ပေါ်စေဘဲအပ်နှံရမည်။

၁၈.၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းနှင့် သက်တမ်းတိုးမြှင့် ခွင့် ရပါက တိုးမြှင့်သည့် သက်တမ်းကာလကုန်ဆုံးသည့် အခါ ( သို့မဟုတ် ) စာချုပ်ရုပ်သိမ်းသည့် အခါ လုပ်ငန်း နှင့် ဆက်စပ်သည့် မရွှေ့မပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများ အပါအဝင် ပစ္စည်းများအားလုံး ကို အဖိုးစားနားမပါဘဲလုပ်ကိုင်ခွင့်ပြုသူထံသို့ လွှဲပြောင်း ပေးအပ်ရမည်။

၁၉။ မြေနှင့်အဆောက်အဦးသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၉.၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန်( သို့မဟုတ် ) လိုက်နာရန် ပျက်ကွက်~~ခြင်းကြောင့်~~ပါက လုပ်ကိုင်ခွင့်ပြုသူကယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် ( သို့မဟုတ် )လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ရမည်။

၁၉.၂ လုပ်ကိုင်ခွင့်ရသူသည် ပျက်ကွက်မှုများကို ပြုပြင်ရန် ( သို့မဟုတ် ) လိုက်နာဆောင်ရွက်ရန် လုပ်ကိုင်ခွင့်ပြုသူကအကြောင်းကြားစာပေးပို့ သော်လည်းယင်းအကြောင်းကြားစာပါ ကာလ အတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် ( သို့မဟုတ် ) လိုက်နာဆောင်ရွက်ရန် ပျက်ကွက်နေပါကလုပ်ကိုင်ခွင့်ပြုသူသည် မြေနှင့် ယင်းမြေပေါ်ရှိအဆောက်အဦးများသို့ပြန်လည်ဝင် ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူခြင်းမှာ လုပ်ကိုင်ခွင့်ပြုသူ က လုပ်ကိုင်ခွင့် ရသူ ထံမှ ငှားရမ်းခ ( သို့မဟုတ် ) ပစ္စည်းဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့် ကိုကိုနိုက်ခြင်း မရှိစေရ။

၂၀။ လိုက်နာရမည့်ဥပဒေ

၂၀.၁ ဤသဘောတူစာချုပ်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီလိုက်နာ ဆောင်ရွက် ရမည်။

၂၁။ စာချုပ်အားပြန်လည်စေ့စပ် ညှိနှိုင်းခြင်း

၂၁.၁ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည့် လုပ်ငန်းများ [illegible] အကောင် အထည်ဖော်သည့်အခါကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေ တစ်ရပ်ရပ်ကြောင့် လုပ်ငန်း များဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင် ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်း၍ စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည် စေ့စပ် ညှိနှိုင်းဆောင်ရွက်ရမည်။

၂၂။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း

၂၂.၁ လုပ်ကိုင်ခွင့်ရသူသည်ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့်ဧရိယာ [illegible] မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေပါပြဋ္ဌာန်းချက်များနှင့် အညီလိုအပ်သည် များကိုကာကွယ် စောင့်ရှောက်ရမည်။

၂၂.၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် ဧရိယာပတ်ဝန်းကျင်၏ရေထု လေထုများအား သတ်မှတ်ထားသည့်စံနှုန်းများထက်ကျော်လွန်၍ညစ်ညမ်းမှုမရှိအောင် ထိန်းသိမ်းခြင်း မြေအောက်ရေမြေဂေဟာစနစ်များမထိခိုက် မပျက်စီးအောင်ကာကွယ် စောင့်ရှောက်ခြင်း

၂၂.၃ ၊ လုပ်ကိုင်ခွင့်ရသူသည် အမှိုက်စွန့်ပစ်ခြင်း ၊ အမှိုက်များနှင့် အညစ်အကြေးများ ကိုစနစ် တကျ သိမ်းဆည်းပြီး သန့်စင်စနစ်များဖြင့် ဆောင်ရွက်၍သဘာဝပတ်ဝန်းကျင်မထိခိုက်အောင်ပြုလုပ်ရမည်။

၂၂.၄ လုပ်ကိုင်ခွင့်ရသူသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့် စပ်လျဉ်းသည့် လူမှုဘဝ ထိခိုက်မှု ဆန်းစစ်လေ့လာချက် Environmental Social impact Assessment (ESIA) ဆောင်ရွက်မှု စီမံချက် ရေးဆွဲ၍ ဤသဘောတူစာချုပ်ပါလုပ်ငန်းများမစတင်မီဆန်းစစ်လေ့လာချက် ဆောင်ရွက်

၂၃။ သယံဇာတတွေ့ရှိခြင်း

၂၃.၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းအတွင်းအငှားချထားသည့်မြေ မြေအောက်မှ သယံဇာတ ပစ္စည်းများ ၊ ကျောက်မျက်ရတနာများ ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ဓါတ်သတ္တုများ ရေနံ ဓါတ်ငွေ့ဆိုင်ရာပစ္စည်းများ အပါအဝင်အဖိုးတန်သဘာဝ အရင်းအမြစ် များတွေ့ရှိပါက လုပ်ငန်း ဆောင်ရွက်မှုများကိုချက်ခြင်းရပ်ဆိုင်းပြီးလုပ်ကိုင်ခွင့်ပြုသူထံသို့ချက်ချင်းအကြောင်းကြားအသိပေးရမည်။ လုပ်ကိုင်ခွင့်ပြုသူ၏ ညွှန်ကြားချက်နှင့်အညီ ဆက်လက် ဆောင်ရွက်သွားရန်ဖြစ်သည်။

၂၄။ ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင်ပါဝင် ပူးပေါင်းဆောင်ရွက်ခြင်း( CSR )

၂၄.၁ ဤသဘောတူစာချုပ်စာပိုဒ် ၂.၃ ပါ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့် နေ့မှစ၍နှစ်စဉ် ရရှိသည့်ဝင်ငွေများထဲမှ အသားတင်အမြတ်၏ ၂ % ( နှစ်ရာခိုင်နှုန်း ) ( သို့မဟုတ် )ငွေကျပ် ၂၀၀၀၀၀၀/- ကျပ် ( ကျပ်သိန်းနှစ်ရာတိတိ ) တို့အနက်များရာ ပမာဏ ကိုဒေသ ဖွံ့ဖြိုးရေး ရံပုံငွေအဖြစ် သတ်မှတ်လျက် လုပ်ကိုင်ခွင့်ရသူကလုပ်ငန်းဆောင်ရွက်ရာ ဒေသ၌ဖွံ့ဖြိုးရေး လုပ်ငန်းများကို ဆောင်ရွက်ပေးရမည်။ ယင်းဒေသဖွံ့ဖြိုးရေးရံပုံငွေ ကို( ၂ ) နှစ် ( ၁ ) ကြိမ် နှစ်ဖက်စုံညီညှိနှိုင်းချက် အတိုး ၊ အလျှော့ ပြုလုပ်ကြရန်ဖြစ်သည်။

၂၅။ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့

၂၅.၁ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှာ ၂၀၁၇ ခုနှစ် ၊ လ ရက် နေ့ဖြစ်သည်။

၂၆။ အကြောင်းကြားခြင်း

၂၆.၁ နှစ်ဦးနှစ်ဖက် တို့သည် အောက်ပါအတိုင်းဆက်သွယ်အကြောင်းကြားပါမည်-

(က) အကြောင်းကြားသည့်စနစ်မှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)အီးမေး(လ်) တို့ဖြင့်လည်းကောင်း ၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း ၊ အထူးဆက်သား ဖြင့်ဆက်သွယ်၍လည်းကောင်းအကြောင်းကြားဆက်သွယ်ပါမည်။

(ခ) ဆက်သွယ်ရန်လိပ်စာ၊

လုပ်ကိုင်ခွင့်ပြုသူ ( ကိုယ်စား )

အမည် - ဦးကောင်းစံဦး

မှတ်ပုံတင်အမှတ် - ၁၂/မဘန(နိုင်)၀၁၀၂၂၆

လိပ်စာ - အတွင်းရေးမှူး

- တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

- ထားဝယ်မြို့

ဖုန်းနံပါတ် - ( )

ဖက် (စ်) - (၉၅) - ၅၉ - ၂၃၆၅၇၈၈၀၀

လုပ်ကိုင်ခွင့်ရသူ ( ကိုယ်စား )

အမည် - ဒေါ်မာမာခင်

မှတ်ပုံတင်အမှတ် - ၁၂/အစန(နိုင်)၁၂၂၂၁၆

လိပ်စာ - အမှတ် ( ၁၇၀ )၊သုခလမ်း ၊ လှိုင်မြို့နယ် ၊

အင်းစိန်ခရိုင် ရန်ကုန်တိုင်းဒေသကြီး။

ဖုန်းနံပါတ် - (၉၅)-၁-၂၃၉၃၀၈၆၊ ၃၉၃၂၀၃

E-mail - reserve@PVRngapali.com

၂၇။ အထွေထွေ

၂၇.၁ စာချုပ်ပါ စည်းကမ်းချက်များ ၊ အကြောင်းအရာများအားလုံးကိုစာချုပ်~~နှင့်ဦးနှင်းဖတ်ဆို~~ မှ သည့် [illegible] [illegible] ဖတ်ရှုနားလည်သိရှိပြီးသဘောတူလက်ခံပြီး ဖြစ်သည့်အလျောက် ၂၀၁၇ ခုနှစ် ------------------------ လ ------------------ ရက်နေ့တွင်အောက်ပါ အသိသက်သေများ ရှေ့ မှောက် ၌ လက်မှတ်ရေးထိုးကြပါသည်။

လုပ်ကိုင်ခွင့်ပြုသူ ( ကိုယ်စား )

ဦးကောင်းစံဦး

အတွင်းရေးမှူး

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

ထားဝယ်မြို့

လုပ်ကိုင်ခွင့်ရသူ ( ကိုယ်စား )

ဒေါ်မာမာခင်

မန်နေဂျင်းဒါရိုက်တာ

SUPREME SERVICES TEAMHOTEL Co.,Ltd

<u>အသိသက်သေများ</u>

အမည် ---------------------------------- အမည် ------------------------------------------

မှတ်ပုံတင် ------------------------------ မှတ်ပုံတင် --------------------------------------

နေရပ် -------------------------------------- နေရပ် ------------------------------------------

---------------------------------------- ------------------------------------------

တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့

နှင့်

SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား ချုပ်ဆိုသော

မြေငှားခြင်းဆိုင်ရာ (Lease Agreement )

သဘောတူ စာချုပ် (မူကြမ်း)

၂၀ ခုနှစ် လ ( ) ရက်

"မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူ စာချုပ်"

Lease Agreement

တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့

နှင့်

SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား

ချုပ်ဆိုသောမြေငှားခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)

မာတိကာ

# "မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူ စာချုပ်"
# Lease Agreement

တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့

နှင့်

SUPREME SERVICES TEAM HOTEL Co.,Ltd

တို့အကြား

ချုပ်ဆိုသောမြေငှားခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း)

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ၂၀ ခုနှစ်၊ လ ( ) ရက်နေ့တွင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊တနင်္သာရီတိုင်းဒေသကြီး ထားဝယ်မြို့တွင် ဦးကောင်းစံဦး ၊ မှတ်ပုံတင် ၁၂/မဘန(နိုင်)၀၁၀၂၂၆ ၊ အတွင်းရေးမှူး ကိုယ်စားပြုသော တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့၊ ထားဝယ်မြို့ ( နောင်တွင် "အငှားချထားသူ" ဟုခေါ်တွင် မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်။)

ကတစ်ဖက်

ဒေါ်မာမာခင်၊ နိုင်ငံသားစိစစ်ရေးအမှတ်၊ ၁၂/အစန(နိုင်)၁၂၂၂၁၆၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အောင်ဆန်းကွင်း မြောက်ဘက်တန်း၊ အခန်းအမှတ် (S/5)၊ ဒုတိယထပ်၊ City MART အပေါ်ထပ်တွင်ဖွင့်လှစ်ထားသော ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် ၏ တည်ဆဲဥပဒေများနှင့် အညီ တည်ထောင်ထားသည့် အစုရှယ်ယာရှင်များနှင့် ကန့်သတ် ထားရှိသော ပုဂ္ဂလိကကုမ္ပဏီ ဖြစ်သည့် မြန်မာနိုင်ငံသားပိုင် SUPREME SERVICES TEAM HOTEL Co.,Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ တရားဝင် ကိုယ်စားလှယ်များ၊ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်" ဟု မှတ်ယူရမည်) အခြားတစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ငွေထွန်းကျွန်း မြေပုံ (A-898114, B-900114, C-900110, D-902110) ရှိ မြေဧရိယာ( ၁၅ ) ဧကတွင် ဟိုတယ်နှင့် ခရီးသွား လုပ်ငန်းလုပ်ကိုင်ခြင်းကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ချုပ်ဆို ကြပါသည်။

၂.၁. [illegible]

[illegible]

ဤသဘောတူစာချုပ်တွင် အင်္ဂလိပ်ဘာသာဖြင့် ရည်ညွှန်းပါက "စာချုပ်ဝင်" [illegible] နှင့်ပြီးနှစ်ဖက်လုံးကိုရည်ညွှန်းပါက "စာချုပ်ဝင်များ" ဟုခေါ်ဝေါ်သုံးစွဲပါမည်။

၁။ ရည်ရွယ်ချက်

၁.၁ မြန်မာ့ ပင်လယ်ပြင် သဘာဝ အရင်းအမြစ်များနှင့် ကျွန်းများ၏ ဂေဟ စနစ်များကို သွားရောက် လေ့လာ ကြည့်ရှုနိုင်ရန်၊ ဒေသတွင်း ကမ္ဘာလှည့် ခရီးသွားလုပ်ငန်းများ ဖွံ့ဖြိုး တိုးတက်လာစေရန် ဟိုတယ် လုပ်ငန်းနှင့် ဘန်ဂလို အဆောက်အဦးများ ဖွံ့ဖြိုး တိုးတက်လာစေရန်၊ ၎င်း နှင့် ဆက်စပ်သော လုပ်ငန်းများ တည်ဆောက်လုပ်ကိုင်သွားရန်၊ ဒေသခံပြည်သူများ အတွက် အလုပ်အကိုင် အခွင့် အလမ်း များ ပေါ်ပေါက်လာပြီး ဝင်ငွေပိုမို တိုးတက်ရရှိစေရန်နှင့် နယ်မြေဒေသ ဖွံ့ဖြိုး တိုးတက်စည်ပင်လာစေရန် ရည်ရွယ်ပါသည်။

၂။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၂.၁ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်း မြို့ နယ်၊ ငတွေရှူးကျွန်းမြေနေရာ၊ အကျယ်အဝန်း( ၁၅ ) ဧကရှိ မြေပုံ အညွှန်း (A-899117,B-901112, C-903107, D-898108) ရှိ မြေနေရာပေါ်တွင် ဟိုတယ် နှင့် ခရီးသွား လုပ်ငန်းများ အကောင် [illegible] ဖော် ဆောင်ရွက်သွားမည့် ~~အဆောက်အဦး လုပ်ကိုင် [illegible]~~ ခြင်း ဆိုင်ရာ ဤသဘောတူစာချုပ် [illegible] ဆိုလိုသည်။ [illegible]

ဤ စကားရပ်တွင် ဤ ကိစ္စအတွက်ချုပ်ဆိုသောမြေငှားရမ်းခြင်းဆိုင်ရာ စာချုပ်ပါအကျုံးဝင်သည် ။ (မြေပုံ ကို နောက်ဆက်တွဲဖြင့် ဤစာချုပ်တွင်ပူးတွဲထားပါသည်)

[illegible]

၂.၂ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ ( ၁ ) ရက်နေ့မှ နောင်နှစ် မတ်လ (၃၁) ရက်နေ့အထိ (၁၂)လတာကာလ ကို ဆိုလိုသည်။

၂.၃ အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့

အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့ ဆိုသည်မှာ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှ စ၍ ( ၃၆ ) လ အတွင်း သို့မဟုတ် အပန်းဖြေစခန်းနှင့် အဆောက်အဦးများ ဆောက်လုပ်ပြီး၍ လုပ်ငန်း များ စတင်လည်ပတ်ပြီး ဝန်ဆောင်မှု လုပ်ငန်းများ စတင်လက်ခံ ဆောင်ရွက်သည့်နေ့ကို ဆိုလိုသည်။

၂.၄ အသုံးပြုနိုင်သောမြေ

၂.၄ ~~အသုံးပြုနိုင်သောမြေ~~ အသုံးပြုနိုင်သောမြေ ဆိုသည်မှာ အပန်းဖြေစခန်း နှင့် ဆက်စပ် လုပ်ငန်း များ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုလိုသည်။

၂.၅ အရံထားရှိသည့်မြေ

အရံထားရှိသည့်မြေ ဆိုသည်မှာ လက်ရှိအခြေအနေတွင် မည်သည့် လုပ်ငန်းကိုမျှ လုပ်ကိုင်ဆောင်ရွက် ခြင်းမပြုဘဲ နောက်တစ်ချိန်တွင် အသုံးပြုလိုပါက အသုံးပြု နိုင်သောမြေ အဖြစ်ပြောင်းလဲ ခွင့်ပြုချက် ရယူဆောင်ရွက်ရန် သတ်မှတ်ထားသော မြေကိုဆိုလိုသည်။

## ၃။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၃.၁ အငှားချထားသူသည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်းရှိ ယခုဤ သဘောတူ စာချုပ်ကို ချုပ်ဆိုသော ဇလွန်းရူးကျွန်းမြေနေရာကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်သည်။

၃.၂ အငှားချထားခြင်းခံရသူသည် အထက်ဖော်ပြပါ အရပ်ဒေသတွင် အပန်းဖြေစခန်း လုပ်ဆောင် ရန်၊ အဆောက်အဦးများဆောက်လုပ်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပြီး လုပ်ကိုင် နိုင်စွမ်းရှိသော အတတ်ပညာရှင်၊ အသိပညာရှင်များ အပြည့်အဝရှိကြောင်း အာမခံသည်။

၃.၃ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးသူများသည် လုပ်ငန်းတာဝန်အရ ဤစာချုပ် ကို လက်မှတ်ရေးထိုးပိုင်ခွင့်အာဏာရှိသူများဖြစ်ကြသည်။

## ၄။ မြေငှားရမ်းကာလသတ်မှတ်ခြင်း

၄.၁ အငှားချထားသူသည် ဤသဘောတူစာချုပ်၊ အပိုဒ် ၂.၁ ပါ ~~မြေဧကာ~~ ရေမြေဧရိယာ စုစုပေါင်း(၁၅) ဧကကို အငှား ချထားသူသို့ နှစ်ရှည်ငှားရမ်း၍ ၄င်းမြေပေါ်တွင် အပန်းဖြေစခန်း လုပ်ငန်းများ လုပ်ကိုင်ဆောင် ရွက်ရန် သဘောတူညီသည်။ ငှားရမ်းသည့်ကာလ မှာ ဤသဘောတူစာချုပ် လက်မှတ်ရေး ထိုးသည့် နေ့မှစ၍ နှစ်ပေါင်း(၅၀) သတ်မှတ်သည်။

## ၅။ စာချုပ်သက်တမ်းသတ်မှတ်ခြင်း

၅.၁ အငှားချထားသူသည် လုပ်ကိုင်ခွင့်ရသူသို့ ဤသဘောတူစာချုပ် လက်မှတ် ရေးထိုးသည့် နေ့ မှစ၍ မြေဧရိယာ (၁၅) ဧကရှိ ပင်လယ်ကမ်းခြေမြေနေရာကို နှစ်ပေါင်း ( ၅၀ ) ငှားရမ်း အသုံးပြု ခွင့် ပြုသည်။ သို့ဖြစ်၍ ဤစာချုပ် ကနဦး သက်တမ်းကို ( - - ၂၀၁၇ )ရက်နေ့မှ ( - - ) ရက်နေ့အထိ နှစ်ပေါင်း ( ၅၀ ) သတ်မှတ်သည်။

## ၆။ စာချုပ်သက်တမ်းတိုးခြင်း ၊

၆.၁ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်သက်တမ်းပြည့်သည့်အခါ ဆက်လက်ငှားရမ်းလိုပါက နောက်ထပ် တစ်ကြိမ်လျှင် (၁၀ ) နှစ်စီဖြင့် (၂) ကြိမ်ဆက်လက် ငှားရမ်း ခွင့်ပြုမည် တင်ပြဆောင်ရွက်ခွင့်ရှိသည်။

၆.၂ အငှားချထားခြင်းခံရသူသည် စာချုပ် သက်တမ်းပြည့်ပြီးနောက် ဆက်လက်တိုးမြှင့် ငှားရမ်း လုပ် ကိုင်လိုပါက သက်တမ်းမစေ့ရောက်မီ အနည်းဆုံး ( ၆) လကြိုတင်၍ အငှားချထားသူထံ စာဖြင့် အ

သားလျှောက်ထားရမည်။ အငှားချထားသူ က သည့်အတိုင်း က လိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

၇။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း

၇.၁။ လုပ်ကိုင်ခွင့် ရရှိသူသည်ငထွေးရှုးကျွန်းမြေဧရိယာ( ၁၅ )ဧကအတွက်မြေ အသုံးချမှု အာမခံကြေး အဖြစ်အောက်ပါအတိုင်းခွဲခြားသတ်မှတ်ပြီး၊ ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့ တွင် နှင့် ပြုသူ၏ ငွေစာရင်းခေါင်းစဉ်အမှတ် ( )ဖြင့် ဘဏ်သို့ပေးသွင်းရမည်။

(က) အသုံးပြုနိုင်သောမြေ

(၁၅) ဧက x ကျပ် ၁၀၀၀၀၀ = ကျပ် ၁၅၀၀၀၀၀

၇.၂ ရသူသည် မြေအသုံးပြုခြင်း အတွက် နှစ်စဉ်မြေငှားရမ်းခ ကို အောက်ပါအတိုင်း တွက်ချက်ပေးသွင်း ရမည်။

(က) ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ

| | | |
|---|---|---|
| (အခန်း ၁၅ ခန်း ( Sea View ) | * USD 120 * 365 )၏ ၃၅ % | = ၂၂၉၉၅၀ USD |
| (အခန်း ၁၅ ခန်း (Garden View ) | * USD 80 * 365 )၏ ၃၅ % | = ၁၅၃၃၀၀ USD |
| (အခန်း ၂၀ ခန်း ( Mountain View ) | * USD 60 * 365 )၏ ၃၅ % | = ၁၅၃၃၀၀ USD |
| | စုစုပေါင်း | = ၅၃၆၅၅၀ USD |

(ခ) အခြားဝင်ငွေ

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ၏ ၁၀ % = ၅၃၆၅၅ USD

(ဂ) ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ+အခြားဝင်ငွေ = ၅၉၀၂၀၅ USD

(ဃ) နှစ်စဉ်မြေငှားရမ်းခ = ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ၏ ၅ %

= ၅၉၀၂၀၅ USD ၏ ၅ %

= ၂၉၅၁၀ USD

၇.၃ ရသူသည် နှစ်စဉ်မြေငှားရမ်းခကိုတစ်နှစ်လျှင် ( ၂ ) ကြိမ်အရစ်ကျပေးချေရမည်။ ပထမဆုံးအရစ်ကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် ဟိုတယ်တရားဝင်ဖွင့် လှစ်သည့် နေ့မှစ၍ ပေးချေရမည်။ ပထမအရစ်ပေးချေ ငွေမှာ USD ၁၅၀၀၀ ) ဖြစ်ပါသည်။ ဒုတိယအရစ်ကို ဘဏ္ဍာရေး နှစ်၏ မတ်လ ( ၃၁ ) ရက် နေ့မတိုင်မီ ပေးချေရမည်။ ဒုတိယအရစ် ပေးချေရမည့် ငွေမှာ ( USD ၁၄၅၁၀ ) ( သို့မဟုတ် ) ဟိုတယ်လုပ်ငန်း ဝင်ငွေ အခြေခံ တွက်ချက်မှု ၏ ၅ % သည် ပိုမိုများနေပါက ယင်းငွေ အနက် ပထမအရစ်တန်းဖိုးငွေ ထုတ်နှုတ်၍ ကျန်ငွေ ပမာဏကို ပေးသွင်းရမည်။

၇.၄ မြေငှားရမ်းခ ပေးသွင်းရာတွင် ငွေပေးသွင်းမှုနောက်ကျပါက အငှားချထားခြင်းခံရသူသည် နောက်ကျကြေးအဖြစ် တစ်ရက်လျှင် ငွေ ၅၀၀၀၀/-ကျပ် (ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် [illegible] ထပ်မံပေးသွင်းရမည်။ သို့သော် နောက်ကျကြေးပေးသွင်းမှုကို (၂)လထက်ကျော် လွန်ခြင်းမရှိစေရ။

၇.၅ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့် ရက်စွဲသည် တည်ဆောက်ရေးကာလသတ်မှတ် ရက်ထက်မကျော်လွန်စေရ။ အကယ်၍အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့သည် [illegible] ဆောက်ရေးကာလ[illegible]သည့်နေ့မှစ၍ ပေးချေရမည်။

၈။ တည်ဆောက်ရေးကာလသတ်မှတ်ခြင်း

၈.၁ ဤသဘောတူစာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှစ၍ (၃၆) လ အတွင်း အပန်းဖြေစခန်း တည်ဆောက်ရေး လုပ်ငန်းများကို သတ်မှတ် နယ်မြေတွင် အပြီးဆောက်လုပ်ရမည်။

၈.၂ ဤသဘောတူစာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှစ၍ ကနဦး ပတ်ဝန်းကျင်[illegible]ခြင်း ကာလကို (၆) လတာကာလသတ်မှတ်သည်။ တည်ဆောက်ရေးကာလကို (၃၀) လ[illegible] အပြီးဆောင်ရွက်ရမည်။

၉။ အငှားချထားသူ၏ တာဝန်များ

၉.၁ အငှားချထားသူသည် ဤသဘောတူစာချုပ် တွင်ပါရှိသော စည်းကမ်းချက်များနှင့် အညီ [illegible] အကျိုးသက်ရောက်သည့် နေ့မှစ၍ အငှားချထားခြင်း ခံရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောင့်အယှက်မရှိအေးချမ်းစွာလုပ်ကိုင်နိုင်ရန်ဆောင်ရွက်ပေးရမည်။

၉.၂ အငှားချထားသူသည် အငှားချထားခြင်းခံရသူက ပေးရန်ရှိသည့် မြေငှားရမ်းခများ[illegible] သတ်မှတ်ကာလအတွင်းမှန်ကန်စွာပေးသွင်းနိုင်ရန်ကြီးကြပ်ပေးရမည်။

၉.၃ အငှားချထားသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း အငှားချထားခြင်းခံရသူ၏ လုပ်ငန်း ဆောင်ရွက် မှုများကို ကြိုတင်အသိပေးအကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

၁၀။ အငှားချထားခြင်းခံရသူ၏ တာဝန်များ

၁၀.၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် အညီ မိမိ၏လုပ်ငန်းကိုအချိန်မီပြီးစီးအောင်ဆောင်ရွက်ရမည်။

၁၀.၂ အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသောမြေငှားရမ်းခ နှင့် အခြား အခွန်အခများကို အချိန်မီ မပျက်မကွက်ပေးသွင်းရမည်။ ထို့အပြင် သတ်မှတ်ထားသော [illegible] စာချုပ်မှတ်ပုံတင်ခြင်းတို့ကိုပါ[illegible]ပါတည်းဆောင်ရွက်ရမည်။

၁၀.၃ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှအပ အခြားသော လုပ်ငန်း တစ်စုံတစ်ရာကိုငှားရမ်းသည့်မြေပေါ်တွင်လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၁၀.၄ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦးများကို ချဲ့ခြင်းနှင့် ပြောင်းလဲ ဆောင်ရွက်ရန်ကိစ္စများဖြစ်ပေါ်လာပါက အငှားချထားသူထံသို့ စီမံချက်ရေးဆွဲ၍ မိမိလုပ်ကိုင်လိုသည့်ကာလမတိုင်မီ(၃)လကြိုတင်တင်ပြအသိပေးသဘောတူညီချက်ရယူပြီးမှ ဆောင် ရွက်ရမည်။ [illegible] သွားရမည်။

၁၀.၅ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို ဆောင်ရွက်ရာတွင် အငှားချထားသူ၏ ခွင့်ပြုချက်မရရှိပဲ ပေါင်နှံခြင်း၊ ထပ်ဆင့်အငှားချထားခြင်း၊ ငှားရမ်းသည့်မြေပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အဦးအားလုံးကိုဖြစ်စေ၊ အစိတ်အပိုင်း တစ်ရပ်ရပ်ကိုဖြစ်စေ ရောင်းချခြင်း၊ပေါင်နှံခြင်း၊ထပ်ဆင့်အငှားချထားခြင်းများဆောင်ရွက်ခြင်းမပြုရန်။

၁၀.၆ အငှားချထားခြင်းခံရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း ချေးငွေများ ရယူခြင်းကိစ္စများကို အငှားချထားသူထံ မှ တဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသိပေးတင်ပြဆောင်ရွက်ရမည်။

၁၀.၇ အငှားချထားခြင်းခံရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ် ကာလအတွင်းမြေမှ အဖိုးတန် ရှေးဟောင်းပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့် အဖိုးတန်သယံဇာတပစ္စည်းများရရှိပါက မိမိလုပ်ငန်း ကို ဆက်လက်လုပ်ကိုင်ခြင်းမပြုဘဲ ခေတ္တရပ်နားထားပြီး အငှားချထားသူထံသို့ ချက်ခြင်း အသိပေးရမည်။

၁၀.၈ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့် ကျွန်းမြေပေါ်တွင် သဘာဝ အလျောက် ပေါက်ရောက် သော သစ်တော သစ်ပင်များရှိပါက စာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင် ရွက်ရာတွင် သစ်တောထွက် ပစ္စည်းများ ထုတ်ယူခွင့်၊ သစ်တောထွက် ပစ္စည်းများ သယ်ယူ ရွှေ့ပြောင်းခွင့်ကိုသစ်တောဥပဒေနှင့်အညီဆောင်ရွက်ရမည်။

၁၀.၉ အငှားချ ထားခြင်း ခံရသူသည် ~~လုပ်ကိုင်ခွင့်ပြုသူက/~~ အငှားချထားသူက ၎င်းကိုယ်တိုင်သော် လည်းကောင်း ၎င်းက တာဝန်ပေးသည့်ပုဂ္ဂိုလ်၊ အဖွဲ့အစည်းကလည်းကောင်း၊ အငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်မှုများကိုကြိုတင်အသိပေး၍လာရောက်ကြည့်ရှုစစ်ဆေးပါကခွင့်ပြုရမည်။

၁၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၁.၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင်-မီးဘေး၊ ရေဘေး၊ လေဘေး [illegible] ခြင်း၊ မြေငလျင်၊ ရေလွှမ်းမိုးခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း [illegible] ဘေးအန္တရာယ်များ ကျရောက်ခြင်း၊ နိုင်ငံတော်အစိုးရ၏ တားမြစ်[illegible] ပြည်သူလူထု/ ရန်သူ၏ နှောင့်ယှက်မှု၊ စစ်ပွဲဖြစ်ပွားခြင်း [illegible]

ဝေဘဲလှန်ပုန်ကန်ခြင်း၊ ရုန်းရင်းဆန်ခတ်ဖြစ် ခြင်း၊ လုပ်ငန်းဆောင်ရွက်၍ မရနိုင်လောက်သည့် ဖြစ်ရပ်များ ပါဝင်ပြီး၊ စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ၊ မလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကိုဆိုလိုသည်။

၁၁.၂ အပန်းဖြေစခန်းတည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ခြင်း၊ လုပ်ငန်းနှင့်စပ်လျဉ်း၍စီမံ ရေးရာ ကိစ္စရပ်များဆောင်ရွက်ခြင်းသည် အဆိုပါမလွန်ဆန်နိုင်သော ဖြစ်ရပ်များဖြစ်ပွားခြင်းကြောင့် လျော့ကျ နှောင့်နှေး တားဆီးခံခဲ့ရခြင်းများ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များအပေါ် အကောင်အထည်ဖော်မှုများကို သက်ရောက်မှုရှိခဲ့ပါက အဆိုပါဖြစ်ပွားသည့် ကာလ နှင့်တူညီသော ကာလကို နှစ်ဖက်အပြန်အလှန် ညှိနှိုင်းဆုံးဖြတ်၍ သက်တမ်းတိုးမြှင့်ပေးရန်ဖြစ်သည်။ ဆုံးရှုံးနစ်နာမှုများဖြစ်ပေါ်လျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူထံသို့နစ်နာဆုံးရှုံးမှုအတွက်လျော်ကြေးတောင်းခံမှုမရှိစေရ၊

၁၁.၃ အဆိုပါမလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဖြစ်ပွားသည်နှင့် စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်နေ လုပ်ငန်း အပေါ် အကျိုးသက်ရောက်မှုရှိလာခဲ့သည့် အဖွဲ့အစည်းသည် ဖြစ်ပွားသည့်နေ့ ရက်မှ (၁၄)ရက်အတွင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ တစ်ဘက်စာချုပ်ဝင်ကလက်ခံအတည်ပြုလျှင် မလွန်ဆန် နိုင်သော ဖြစ်ရပ်ဖြစ်မြောက်ပြီး နှစ်ဖက်စာချုပ်ဝင်များ သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာရာရစေရန် ကျိုးကြောင်းဆီလျော်စွာ ညှိနှိုင်းကိုင်တွယ်၍ ဆောင်ရွက်သွားရမည်။

၁၂။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၂.၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ တစ်စုံတစ်ရာ အငြင်းပွားမှုဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်း လမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။

၁၂.၂ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် အထက်အပိုဒ် (၁၂.၁)ပါအတိုင်း ငြိမ်းချမ်းသော နည်းလမ်းဖြင့် မဖြေရှင်းနိုင်ခဲ့ပါက တည်ဆဲ ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်၊ အငြင်းပွားမှုဖြေရှင်းခြင်းနှင့် သက်ဆိုင်သော စရိတ်စကများကို ရှုံးနိမ့်သည့် စာချုပ်ဝင်မှ ကျခံရမည်။

၁၂.၃ ခုံရုံးတည်နေရာကို လုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူ သတ်မှတ်သည်။

၁၂.၄ အငြင်းပွားမှုကို ဖြေရှင်းရာတွင် အသုံးပြုသည့် ဘာသာစကားမှာ မြန်မာဘာသာစကား ဖြစ်သည်။

၁၃။ စာချုပ်အစိတ်အပိုင်းများ

၁၃.၁ ဤစာချုပ်နှင့်အတူ ပူးတွဲထားသော စာရွက်စာတမ်း၊ မြေပုံ၊ စာရင်းဇယားတို့သည် ဤစာချုပ်၏ တစ်စိတ် တစ်ဒေသ အဖြစ် သတ်မှတ်ရမည်။

၁၄။ စာချုပ်ပြင်ဆင်ခြင်း

၁၄.၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့်ရေးသားဖော်ပြပြီး ပြင်ဆင် နိုင်သည်။ ပြင်ဆင်ချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ~~၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။~~

၁၅။ စာချုပ်ရပ်စဲခြင်း

၁၅.၁ ဤသဘောတူစာချုပ်သည် အောက်ဖော်ပြပါ အချက်များထဲမှ အကြောင်းအချက်တစ်ခု ဖြစ်ပေါ်လာပါက စာချုပ်ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်များနှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း။

(ခ) အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါစည်းကမ်းချက်များကို အကောင် အထည်ဖော် ဆောင်ရွက်နိုင်စွမ်း မရှိတော့ခြင်း။

(ဂ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ် ရပ်ကို ဖောက်ဖျက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ကြောင့် နှစ်ဦးနှစ်ဖက် ဘက်လိုက်မှုမရှိဘဲ ဆုံးဖြတ် ရပ်နား ခဲ့သည့် ကာလသည်(၆)လကျော်လွန်သွားခြင်း။

(င) အငှားချထားခြင်းခံရသူသည် သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့ မှ ရက်ပေါင်း (၃၆၅)ရက်အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို လုံးဝစတင် နိုင်မှုမရှိခြင်း။

(စ) ဤမြေငှားရမ်းခြင်းစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ ကိုယ်တိုင် (B.O.T)တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း စာချုပ်၏ အစိတ်အပိုင်း (၁)၁ အရ ဖြစ် မှတ်ယူသည့်အလျောက် အဆိုပါစာချုပ်ရပ်စဲပါက ~~ဤစာချုပ် ရပ်စဲပါက~~ ဤမြေငှား ရမ်းခြင်း စာချုပ်သည်လည်း အလိုအလျောက်ရပ်စဲသည်။

၁၅.၂ ဤစာချုပ်ရပ်စဲပြီးသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အသိပေးတင်ပြ ရမည်။

## ၁၆။ မြေနှင့်အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးခြင်း

၁၆.၁ အငှားချထားခြင်းခံရသူသည် စာချုပ် သက်တမ်းနှင့် စာချုပ်သက်တမ်း တိုးမြှင့်ခွင့် ရပါက တိုးမြှင့်သည့်သက်တမ်းကာလ ကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ် ရပ်စဲသည့် အခါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့် နေ့မှ ရက်ပေါင်း(၃၀)အတွင်း ငှားရမ်းသည့်မြေကို မူလအငှားချထားခံရသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်စေဘဲ အပ်နှံရမည်။

၁၆.၂ အငှားချထားခြင်းခံရသူသည် စာချုပ် သက်တမ်းနှင့် စာချုပ် သက်တမ်း တိုးမြှင့်ခွင့် ရပါက တိုးမြှင့်သည့် သက်တမ်းကာလ ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ် ရပ်စဲသည့်အခါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ် ရပ်စဲသည့် နေ့မှ ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းနှင့်ဆက်စပ် သည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်း၊ ရွှေ့ပြောင်း နိုင်သောပစ္စည်းများ အပါအဝင် ပစ္စည်းများအားလုံးကို အဖိုးစားနားမပါဘဲ အငှားချ ထားသူထံသို့ ~~ပြန်လည်~~လွှဲ ပြောင်းပေးရမည်။

## ၁၇။ မြေနှင့်အဆောက်အဦးသို့ ပြန်လည်ဝင်ရောက်ခွင့်

၁၇.၁ အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပါက အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန် အငှားချ ထားခြင်း ခံရသူသို့ အကြောင်းကြားစာ ပေးပို့ရမည်။

၁၇.၂ အငှားချထားခြင်းခံရသူသည် ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာ ဆောင်ရွက်ရန် အငှားချ ထားသူက အကြောင်း ကြားစာ ပေးပို့ သော်လည်း ယင်းအကြောင်းကြား စာပါကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင် ရွက်ရန် ပျက်ကွက်နေပါက အငှားချထားသူသည် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးများ သို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူခြင်း မှာ အငှားချထားသူက အငှားချ ထားခြင်း ခံရသူထံမှ ငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၈။ လိုက်နာရမည့်ဥပဒေ

၁၈.၁ ဤသဘောတူစာချုပ်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင် ရွက်ရမည်။

## ၁၉။ စာချုပ်အားပြန်လည် စေ့စပ် ညှိနှိုင်းခြင်း

၁၉.၁ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင် ပုဂ္ဂိုလ်များ သည် နှစ်ဦးနှစ်ဖက်

